# ၃၇ မင်းနှင့် နတ်မျိုးစုံ (ဆရာ ဦးကံမင်း)

၁၉၄၉ ခု၊ ဩဂုတ်လ

အုပ်ရေ - ၂၀၀၀

ခေတ်လူ ပုံနှိပ်လုပ်ငန်း

၄၅၊ မြောင်းကြီးလမ်း၊ ရေကျော်။

ရန်ကုန်မြို့။

**ဆရာ ဦးကံမင်း**

ရေးသားပြုစုသည်





## နိဒါန်း

### ရပ်တည်ချက် နှစ်ခု

နတ် ပြဿနာသည် ယနေ့ မျက်မှောက်ခေတ်၌ အကိုင်ရအတွယ်ရ မလွယ်သော ပြဿနာများတွင် ပါဝင်နေသည်။

နတ် ကိုးကွယ်သူများ ရှိသကဲ့သို့ နတ် မကိုးကွယ်သူများလည်း ရှိသည်။

နတ် ကိုးကွယ်သူများ အနေဖြင့် သူတို့၏ ရပ်တည်ချက်ကို မှန်သည်ဟု ယူဆထားသကဲ့သို့ နတ် မကိုးကွယ်သူများ အနေဖြင့်လည်း သူတို့၏ ရပ်တည်ချက်ကို မှန်သည်ဟု ယူဆနေကြသည်။

### ခံယူချက်နှင့် အကြောင်းယုတ္တိ

ယင်းသို့ ရပ်တည်ချက် မှန်သည်ဟု ယူဆနေကြခြင်းမှာလည်း နှစ်ဦး နှစ်ဖက်လုံးကပင် ကိုယ့်ခံယူချက်နှင့် ကိုယ့်အကြောင်းပြချက် ယုတ္တိများကို ကိုယ်စီကိုယ်င အသီးသီး ဆုပ်ကိုင်ထားကြသောကြောင့် ဖြစ်သည်။

ယင်းသို့ ခံယူချက် ရှိထားကြခြင်းမှာလည်း ခါးသီးသော အတွေ့အကြုံများ သို့မဟုတ် ချိုမြိန်သော အတွေ့အကြုံများ စသော အကြောင်းအမျိုးမျိုးပေါ်၌ အခြေခံကောင်း ခံနေကြလိမ့်မည် ထင်သည်။

မည်သို့ပင်ဖြစ်စေ ယင်းကဲ့သို့ အကြောင်းပြချက် ယုတ္တိများကို အသီးသီး ဆုပ်ကိုင်ထားကြသောကြောင့်လည်း နတ်ပြဿနာမှာ ယနေ့ မျက်မှောက်ခေတ်၌ အကိုင်ရခက်တွယ်ရ မလွယ်ခြင်း ဖြစ်သည်။

## တရားသေနှင့် အမှန်တရား

ဤစာအုပ်သည် "နတ် ကိုးကွယ်ကြပါ" ဟု အတင်း ရိုက်သွင်းကာ တိုက်တွန်းထားသော စာအုပ် မဟုတ်သကဲ့သို့ "နတ် မကိုးကွယ်ကြပါနှင့်" ဟူ၍လည်း ကျပ်တည်းစွာ တားမြစ်ထားသော စာအုပ် မဟုတ်ကြောင်းကိုတော့ စာဖတ်သူများအနေဖြင့် ပဌမဆုံး နားလည်ထားဖို့ လိုပေသည်။

သို့သော် ဤစာအုပ်ကို မဖတ်ရှု မလေ့လာမီ တခုတော့ ကြိုတင် သတိပေးထားလိုသည်။ ယင်းမှာ မိမိတို့ ဆုပ်ကိုင်ထားသော အကြောင်းပြချက် ယုတ္တိများကို တရားသေ ဆုပ်ကိုင် မထားဘို့ပင် ဖြစ်သည်။ တရားသေ ဆုပ်ကိုင်ထားပါက အမှန်တရားနှင့် နီးကြလိမ့်မည်မဟုတ်ပေ။

ယင်းသို့ တရားသေ ဆုပ်ကိုင် မထားမှလည်း ဤစာအုပ်ကို လေ့လာဖတ်ရှုပြီးနောက် ကိုယ်ပိုင်ဉာဏ်ဖြင့် တွေးခေါ် မြော်မြင် စဉ်းစားကာ နတ် ပြဿနာအတွက် မှန်ကန်သော ခံယူချက် တစ်ခုကို ပြတ်ပြတ်သားသား ခံယူမိကြလိမ့်မည် ဖြစ်သည်။

## ပဓာန သော့ချက်

သို့ဖြစ်ရာ နတ် ပြဿနာ၌ အရေးလည်း အကြီးဆုံးဖြစ်၍ ပဓာနလည်း အကျဆုံးဖြစ်သော သော့ချက်မှာ "နတ်နှင့် လူ ပုံမှန် ဆက်ဆံရေး" ပင် ဖြစ်သည်။

နတ်နှင့် လူသားတို့၏ ဆက်ဆံရေးသည် ပုံမှန် အနေအထား ဖြစ်နေပါလျှင် နတ် ပြဿနာ ပေါ်ရန် အကြောင်းမရှိပေ။ ယခုမူ ယင်းသို့ ပုံမှန် အနေအထားကို နားမလည်ကြသောကြောင့် ဒဲ့ဒိုး ပြောရလျှင် နတ်နှင့် ဆက်ဆံရာ၌ ပုံမှန် အနေအထားဖြင့် မဆက်ဆံတတ်သောကြောင့်သာ နတ်ပြဿနာ ပေါ်နေရခြင်း ဖြစ်သည်။

## ဦးတည်ချက်

ဤစာအုပ်သည် နတ်နှင့် လူ ပုံမှန်ဆက်ဆံရေးကို ဦးတည်ချက်ထား၍ ရေးသားထားသော စာအုပ်ဖြစ်သည်။

သို့ဖြစ်ရာ ဤစာအုပ်သည် နတ် ယုံကြည်သူများရော မယုံကြည်သူများ သာမက နတ် သုတေသီများပါ မကျန် အားလုံးအတွက် အသုံးဝင်လိမ့်မည်ဟု ယုံကြည်မိပေသည်။

## အပိုင်း နှစ်ပိုင်း

ယင်းကဲ့သို့ အားလုံးအတွက် အသုံးဝင်အောင်လည်း ဤစာအုပ်၌ -

(က) သမိုင်းရေးရာပိုင်း နှင့်

(ခ) သဘောတရားရေးရာပိုင်း

ဟူ၍ အပိုင်း နှစ်ပိုင်း ပါဝင်အောင် ရေးသား စီစဉ်ထားရာ အခန်း (၁) မှ အခန်း (၁၃) အထိမှာ သမိုင်းရေးရာပိုင်းများ ဖြစ်၍ အခန်း (၁၄) နှင့် (၁၅) မှာ သဘောတရားရေးရာပိုင်းများ ဖြစ်သည်။

ယင်း နှစ်ပိုင်းလုံးကို ကြေကြေညက်ညက် လေ့လာထားပါက နတ် ပြဿနာအတွက် မှန်ကန်ပြတ်သားသော ခံယူချက်ဖြင့် နတ်နှင့် လူ ပုံမှန် ဆက်ဆံတတ်ကြလိမ့်မည် ဖြစ်ပေသတည်း။

စာရေးသူ

၂- ၃- ၉၉





## နတ်နှင့် လူ

(၁) ယံ ကိဉ္စာ ရမ္မာဏံ ကတွာ၊
ဒဇ္ဇာ ဒါနံ အမစ္ဆရီ။
ပုဗ္ဗ- ပေတေ စ အာရဗ္ဘ၊
အထဝါ ဝတ္ထုဒေဝတာ။

(၂) စတ္တာရော စ မဟာရာဇေ၊
လောကပါလေ ယသဿိနေ။
ကုဝေရံ ဓတရဋ္ဌဉ္စ၊
ဝိရူပက္ခံ ဝိရူဠှကံ။
တေစေဝ ပူဇိတာ ဟောန္တိ၊
ဒါယကာ စ အနိပ္ဖလာ။

ပေတဝတ္ထု ပါဠိတော်

ဥရဂဝဂ်၊ ပိဋ္ဌိဓိတလိက ပေတဝတ္ထု

# ၃၇ မင်း နှင့် နတ်မျိုးစုံ

**နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ**

**(၁)**

## နတ်ဆိုတာ တကယ်ရှိသလား

### နတ်ပြဿနာ အဖြာဖြာ

ယနေ့ခေတ်၌ နတ်ကိုးကွယ် တင်မြှောက်မှုများ ပိုမို များပြားလာသည်။ ယင်းသို့ များပြားလာခြင်းမှာ အကြောင်းအမျိုးမျိုးပေါ်၌ အခြေခံ၍ နေသည်။ နတ်ကိုးကွယ် တင်မြှောက်မှု များပြားလာသည်နှင့် အမျှ -

- ❖ နတ်ဆိုတာ တကယ် ရှိသလား၊
- ❖ နတ်ကို ကိုးကွယ် တင်မြှောက်သင့် မသင့်၊
- ❖ ကိုးကွယ် တင်မြှောက်ခြင်းကြောင့် အကျိုးရှိနိုင် မရှိနိုင်၊

စသော မေးခွန်းများကလည်း ပေါ်ပေါက်နေသည်။ ဤ မေးခွန်းများသည် ယနေ့ လူငယ်လောက အတွင်း၌ ပိုမို ရိုက်ခတ်နေသော မေးခွန်းများ ဖြစ်သည်။

ပြဿနာ တစ်ရပ်ကို ကိုင်တွယ် ဖြေရှင်းရာ၌ တခေါင့်တနေရာထဲမှ ကိုင်တွယ် ဖြေရှင်း၍ အဖြေမှန် မရနိုင်ပေ၊ ဒေါင့်တိုင်း ဒေါင့်တိုင်းမှ စေ့ငအောင် ကိုင်တွယ် ဖြေရှင်းမှသာ အဖြေမှန်ကို ဖော်ထုတ်နိုင်မည် ဖြစ်ကြောင်း ပဌမဆုံး သဘောပေါက်ထားဘို့ လိုပေသည်။

တခေါင့် တနေရာထဲမှ ကိုင်တွယ် ဖြေရှင်းပါက မျက်မမြင်ပုဏ္ဏား ရှစ်ယောက်တို့ ဆင်ကို လက်နှင့်စမ်းကာ ကိုယ့်ဒေါင့် ကိုယ့်နေရာ ကိုယ်စမ်းမိသမျှဖြင့် တစ်ယောက် တစ်မျိုးစီ အဖြေပေးနေသကဲ့သို့ အဖြေမှန်ကို ဖော်ထုတ်နိုင်လိမ့်မည် မဟုတ်ပေ။

သို့ဖြစ်ရာ အထက်ပါ မေးခွန်းများကို ဖြေရှင်းရာ၌လည်း တစ်ဒေါင့် တစ်နေရာထဲမှ မဟုတ်ဘဲ ဒေါင့်တိုင်း ဒေါင့်တိုင်း စေ့ငအောင် ကိုင်တွယ် ဖြေရှင်းတတ်ဘို့ လိုပေသည်။

### သမိုင်းက နေရာပေးထားရသော နတ်များ

ပုဂံရာဇဝင်၊ ဦးကုလားရာဇဝင်၊ မှန်နန်းရာဇဝင် စသော မြန်မာရာဇဝင်ကြီးများကို ကြည့်လျှင် ရှေးခေတ် မြန်မာနိုင်ငံ သမိုင်းကြောင်းပေါ်၌ အမှန်တကယ် ဖြစ်ပေါ်ခဲ့ဘူးသော -

(က) နတ်များ၏ အကြောင်းခြင်းတရားများ

(ခ) နတ်နှင့် လူသားတို့၏ ဆက်ဆံရေးများ

ကို အတော်များများ နေရာပေးထားကြောင်း တွေ့ရှိနိုင်ပေသည်။

ယင်း ရာဇဝင်ကြီးများအရ နတ်နှင့် လူသားတို့၏ ဆက်ဆံရေးများကို အောက်ပါအတိုင်း စိတ်ဝင်စားဖွယ်ရာ သိရှိရပေသည်။

### ကွမ်းဆော်မင်းနှင့် ဆောင်ချမ်းပင်စောင့်နတ်

ပုဂံခေတ် ကွမ်းဆော်မင်း (၃၂၆- ၃၄၈) သည် မင်းမဖြစ်မီ တောင်သူမင်းကြီးထံ၌ ကွမ်းဆော် (အခွန်တော် လှည့်လည်နှိုးဆော် ကောက်ခံရသူ) အဖြစ် အမှုထမ်းစဉ် သူ၏ မယ်တော်က ထုပ်ပေးလိုက်သော ထမင်းထုပ်ကို နေ့စဉ် လမ်းတွင် ဆောင်ချမ်းပင်ကြီး တစ်ပင်အောက်၌ စားလေ့ရှိသည်။ စားဦးစားဖျားကိုလည်း ယင်း ဆောင်ချမ်းပင်စောင့် နတ်အား နေ့စဉ် တင်လေ့ရှိသည်။ နတ်သည် ဝမ်းမြောက်၍ ကိုယ်ထင်ပြပြီးလျှင် "အသင် မင်းသား... သင်သည် ပုဂံ၌ မင်းဖြစ်လတ္တံ့၊ ငါးပါးသီလ မြဲစေ၊ သစ္စာစကား သုံးလေ၊ အနုဿတိ ဆယ်ပါး တနေ့ နှစ်ထောင် စီးဖြန်းလေ" ဟု ဆိုသည်။ ဆောင်ချမ်းပင်စောင့်နတ် ဆိုသည့်အတိုင်း သက္ကရာဇ် ၃၂၆ ခုနှစ်တွင် ကွမ်းဆော်မင်းသည် မင်းအဖြစ်သို့ ရောက်ရှိခဲ့သည်။

### အနော်ရထာမင်းနှင့် ရွှေဖျဉ်းညီနောင်

ပုဂံခေတ် အနော်ရထာမင်း (၄၀၆- ၄၃၉) သည် ဖောင်တော်နှင့် စုန်လာရာတွင် တစ်စုံတစ်ယောက်က ဆွဲထားသကဲ့သို့ ဆက်လက် စုန်မရဘဲ ဖောင်တော် ရပ်တန့်နေသည်။ ဤတွင် ဗေဒင်ပညာရှိများက "မင်းညီနောင် (ရွှေဖျဉ်းကြီး၊ ရွှေဖျဉ်းလေး) သည် အမှုတော်ကိုသာ ထမ်းရ၍ တစ်စုံတစ်ရာ အကျိုးမခံစားရသောကြောင့် ဆွဲထားခြင်း ဖြစ်ပါသည်" ဟု လျှောက်တင်ကြသည်။ ထို့ကြောင့် အနော်ရထာမင်းကြီးက တောင်ပြုံးအရပ် ဆုတောင်းပြည့်ဘုရား အနီးတွင် နတ်ကွန်း နတ်နန်း ဆောက်လုပ်စေ၍ ထိုဒေသတစ်ဝိုက်၌ လူအများအား ပူဇော်ပသစေခဲ့ရာ ယခုတိုင် နှစ်စဉ် ပွဲတော် ကြီးကျယ်စည်ကားလျက် ရှိသည်။

### အနော်ရထာမင်းနှင့် လိမ်ပင်စောင့်နတ်

အနော်ရထာဘုရင်သည်ပင် တရုတ်ပြည်သို့ ချီတက်စဉ် လမ်း၌ လိမ်ပင်စောင့်နတ်သည် လိမ်ပင်ပေါ်မှ မဆင်းဘဲ ခြေတွဲလွဲချ ထိုင်နေသောကြောင့် မင်းကြီးက အမျက်ထွက်၍ ကျန်စစ်သားကို ကြိမ်စကြာဖြင့် ရိုက်နှက်စေသည်။ နတ်လည်း မနေဝံ့ဘဲ ထွက်ပြေးရသော်လည်း မင်းကြီးအပေါ် ရန်ငြိုးထားခဲ့သည်။ နောင် အနော်ရထာမင်းကြီး ကံဇာတာ နိမ့်ကျသောအခါ ယင်း လိမ်ပင်စောင့်နတ်က ကျွဲယောင်ဆောင် ခတ်ကာ လက်စားချေသောကြောင့် မင်းကြီး နတ်ရွာစံခဲ့ ရရုံမက အလောင်းပါ ပျောက်ခဲ့ရသည်။

### ကျန်စစ်သားမင်းကြီးနှင့် မင်းမဟာဂီရိနတ်

ပုဂံခေတ် ကျန်စစ်မင်းကြီး (၄၄၆- ၄၇၄) လက်ထက် သက်မင်းကတုံသည် မြန်မာနိုင်ငံ၏ ကျေးစွန်းရွာနားတို့ကို ထိပါးတိုက်ခိုက်လာသောကြောင့် ကျန်စစ်သားမင်းကြီးသည် ပြင်းစွာ အမျက်ထွက်၍ "သက်မင်းကတုံကို ဗိုလ်ပါနှင့်တကွ လက်ရဖမ်းစေ" ဟု အမိန့်ထုတ်ပြန်လိုက်သည်။

ဤတွင် မင်းဆရာ ဖြစ်တော်မူသော အရှင် အရဟံက "ရှေးက ဆုတောင်းဘက် ဖြစ်ခဲ့ကြသော မိတ်ဆွေဟောင်းများကို မပြစ်မှားပါလေနှင့်၊ ဖြစ်ပေါ်လာသော ဒေါသမီးကို ချုပ်တည်းပါ။ လွန်ခဲ့သော ရှေးဘဝက ဒါယကာ မင်းကြီးသည် ပြည့်ရှင်မင်းဖြစ်၍ မြေတော်

သီရိဇေယျသူရ (အလောင်းစည်သူ) မှာ မင်းသားဖြစ်သည်။ ထိုအခါ ငါက မင်းဆရာ ပုဏ္ဏား၊ မင်းမဟာဂီရိနတ် အလောင်းက သူဌေးသား၊ သက်မင်းကတုံက စစ်သူကြီးဖြစ်သည်။ တစ်နေ့တွင် ဘုရား၌ ဝတ်ပြုကြသောအခါ သီရိဇေယျသူရ အလောင်းမင်းသားက "နောင်ဘဝ၌ ဘုန်းကြီးသော မင်း ဖြစ်ရပါလို၏" ဟူ၍ လည်းကောင်း၊ ပုဏ္ဏားကလည်း "မင်းကိုးကွယ်သော ရဟန်း ဖြစ်ရပါလို၏" ဟူ၍ လည်းကောင်း၊ သူဌေးသားကလည်း "မင်းတို့ ပူဇော်ရာ နတ်ဖြစ်ရပါလို၏" ဟူ၍ လည်းကောင်း၊ စစ်သူကြီးကလည်း "ပြည်ထောင်ချင်း မင်းဖြစ်ရပါလို၏" ဟူ၍ လည်းကောင်း၊ မင်းကြီးကလည်း "ဤသူ လေးဦးတို့၏ အကြီးအမှူး ဖြစ်ရပါလို၏" ဟူ၍ လည်းကောင်း အသီးသီး ဆုတောင်း ခဲ့ကြသည်။ ဆုတောင်းသည့်အတိုင်းလည်း ယခုဘဝတွင် ငါတို့ အသီးသီး ဖြစ်လာကြသည်။ ယင်းသို့ ဆုတောင်း ဆုယူဘက်များ ဖြစ်ကြသောကြောင့် တစ်ဦးကို တစ်ဦး မပြစ်မှားကြကုန်လင့်" ဟု ဆုံးမဩဝါဒ ပေးခဲ့သည်။

ထိုအခါ မင်းမဟာဂီရိနတ်သည် ကိုယ်ထင်ပြ၍ အရှင် အရဟံ၏ ဆုံးမစကားကို ထောက်ခံ ပြောဆိုသည်။ ထိုအခါ ကျန်စစ်မင်းကြီးက "အသင်နတ်ကား ငါနှင့် ဆုတောင်းဘက် ဖြစ်ပါလျက် ငါ ဆင်းရဲစဉ်အခါက အဘယ့်ကြောင့် မစောင့်ရှောက်ပါသနည်း" ဟု မေးလေသည်။

မင်းမဟာဂီရိနတ်ကလည်း "သင်မင်းကြီးအား အနော်ရထာမင်းကြီးက နောင်ကြိုးဖွဲ့၍ လှံနှင့် ထိုးသောအခါ ကိုယ်ကိုမထိဘဲ နောင်ကြိုးကိုသာ ထိသဖြင့် ကြိုးပြတ်ပြီး လွတ်သွားသည်ကား အကျွန်ုပ်ပင် ကယ်ဆယ်စောင်မသည် မဟုတ်ပါလော၊ အသင်မင်းကြီး ငရမန်ကန်းနှင့် စစ်တိုက်စဉ်က အရေးနိမ့်၍ ညဥ့်သန်းခေါင် မှောင်ကြီးမဲမဲ တစ်ယောက်ထဲ ပြေးလာသောအခါ ဖွတ်ရေဝတ်ရုံ ဝတ်၍ မြင်းကြားကြီးကို စီးပြီး ရှေ့က ခရီးညွှန်သူကား ကျွန်ုပ်ပင် မဟုတ်ပါလော၊ အသင်မင်းကြီး စောလူးမင်းကို ခိုးယူသောအခါ လူများလိုက်၍ ပန်းဟိုက်ကြီးစွာ ရေထဲကူးနေစဉ်ကလည်း ကျွန်းငယ် တစ်ခုကို ဖန်ဆင်း၍ မြစ်ထွေးငှက်ယောင်ဆောင်ကာ မြည်တွန် လမ်းညွှန်သူကား ကျွန်ုပ်ပင် မဟုတ်ပါလော၊ ထို့နောက် တံငါသည် သားအဖယောင်ဆောင်၍ အောင်သာဖက်သို့ ရောက်အောင် ပို့ဆောင်သူကား ကျွန်ုပ်ပင် မဟုတ်ပါလော" ဟု ပြန်လည် ပြောကြားရာ မင်းကြီးလည်း "ဟုတ်ပါပေသည်" ဟု ဝန်ခံစကား ပြောကြားကာ ဒေါသကို သိမ်းဆည်း နိုင်ခဲ့လေသည်။

ထို့နောက် ကျန်စစ်မင်းကြီးက "အသင်နတ် အမိန့်ရှိမှပင် သိရပါသည်။ ကတည်းက ကတဝေဒီ တရားတော်အတိုင်း အသင်နတ်မင်းအား နတ်ကွန်း၊ နတ်ကန္နားများ ထား၍ ဗလိနတ်စာ ကျွေးခြင်း၊ ပူဇော်ခြင်း မပြတ် ပြုပါမည်၊ အသင် နတ်မင်းလည်း ရှေးကထက် တိုး၍ ကြည့်ရှု မ, စတော်မူပါ" ဟု တောင်းပန်ပြီးလျှင် နတ်ကွန်းအသစ် ဆောက်လုပ်၍ နတ်ရုပ်အသစ် ထုလုပ်ကာ နတ်ထိန်း နတ်နေတို့ကိုလည်း ထိန်းသိမ်း စောင့်ရှောက်စေသည်။

## တရုပ်ပြေးမင်းနှင့် ငတေပါးသင်နတ်

ပုဂံခေတ် နောက်ပိုင်း တရုပ်ပြေးမင်း (၆၁၇- ၆၄၈) လက်ထက် တရုပ်တို့နှင့် စစ်တိုက်၍ ငဆောင်ချမ်း စစ်ပျက်သည့်နေ့တွင် ပုဂံမြို့ သရပါတံခါးကို စောင့်သော ငတေပါးသင်နတ်သည် မင်းကြီး၏ ဆရာတော်ခြေကို လှုပ်၍ "ယနေ့ ငဆောင်ချမ်းမြို့ ပျက်ချေပြီ" ဟု လျှောက်ထားလေ သည်။ ထိုနတ်သည် အင်းဝခေတ် မင်းခေါင်ကြီးလက်ထက် တက်သေးသူမြတ်ထံ၌လည်း ခစား ဆည်းကပ်သေးသည်ဟု သိရှိရသည်။

## ဆင်ဖြူရှင် တရဖျားမင်းနှင့် သူရဿတီနတ်သမီး

အင်းဝခေတ် ဆင်ဖြူရှင် တရဖျား (၇၆၂- ၇၆၃) သည် အောင်ပင်လယ်တောသို့ တောကစား ထွက်ရာတွင် ဇော်ဂျီနှင့် တွေ့ရှိ၍ ဇော်ဂျီက မန္တန်နှင့် မန်းမှုတ်ပေးသောကြောင့် နတ်သမီးတစ်ဦး

ပေါ်လာသည်။ မင်းကြီးသည် စိတ်မထိန်းနိုင်ဘဲ ထိုနတ်သမီးနှင့် သံဝါသ ပြုမိပြီးနောက် နတ်သမီး ကွယ်ပျောက်သွားသည်။ မင်းကြီးသည် စိတ္တဇနာ စွဲ၍ စိတ်ဖောက်ပြန်ပြီး နတ်ရွာစံသည်။ ယင်း နတ်သမီးကို ရာဇဝင်ကဗျာဆရာ တစ်ဦးက "သံဝါသ စပ်မှီသည်။ ရသသတီ သွေ့ပျောက်လို့၊ သေမလောက် ဆင်ဖြူရှင်၊ ရူးရသည့် အင်" စသည်ဖြင့် သူရသသတီ နတ်သမီး ဖြစ်ကြောင်း ဖွဲ့ဆိုခဲ့ဘူးသည်။

## သုရှင်တကာရွှတ်ပိမင်းနှင့် အဝတ်မရှိသော နတ်သမီး

ဟံသာဝတီ မွန်ဘုရင် သုရှင်တကာရွှတ်ပိသည် ၈၉၆ ခုနှစ်တွင် တောနက်တစ်ခု အတွင်းရှိ ရေအိုင်တစ်ခု၌ အဝတ်မရှိသော နတ်သမီးနှင့် တွေ့ရှိကာ စိတ်မထိန်းဘဲ ယင်း နတ်သမီးနှင့် သံဝါသ ပြုမိပြီးနောက် နတ်သမီး ကွယ်ပျောက်သွားသည်။ မင်းကြီးလည်း ထိတ်လန့်ကာ စိတ္တဇနာ စွဲကပ်၍ နတ်ရွာစံခဲ့သည်။

## ပဉ္စမ မင်းခေါင်နှင့် ကုက္ကိုပင်စောင့်နတ်

အင်းဝခေတ် ပဉ္စမ မင်းခေါင် (၇၆၃- ၇၈၃) ၏ သား မင်းရဲကျော်စွာသည် ၇၇၈ ခုနှစ် ဒလတိုက်ပွဲတွင် ကျဆုံးသောအခါ အင်းဝတွင် ကုက္ကိုပင်စောင့်နတ်က ကိုယ်ထင်ပြ၍ မင်းရဲကျော်စွာ ကျဆုံးပြီ ဖြစ်ကြောင်း ပြောပြခဲ့သည်။





## နောင်တော်ကြီး မင်းတရားနှင့် ဥဒိန်ကျော်ခေါင်နတ်

ကုန်းဘောင်ခေတ် နောင်တော်ကြီးမင်း (၁၁၂၂- ၁၁၂၅) လက်ထက် ၁၁၂၃ ခုနှစ်တွင် ဇင်းမယ်ကို သိမ်းရန် စစ်ချီစေရာ လမ်းတွင် တပ်မတော်မှ ဥဒိန်ကျော်ခေါင်ဘွဲ့ခံ ဘောတ်ချောင်း ဗိုလ်သည် အရပ်အနေ မသင့်သောကြောင့် တပ်ပျက် သေဆုံး၍ နတ်ဖြစ်ပြီးနောက် ဘုရင့်ထံသို့ လာပြီးလျှင် စက်တော်ခေါ်နေသော ဘုရင်အား ခြေကို လှုပ်နှိုးကာ "မိမိ သေဆုံးခဲ့ရပြီ ဖြစ်ကြောင်း၊ အပါးတော်တွင် စောင့်နေ ထမ်းရွက်လိုပါကြောင်း" လျှောက်တင်လေသည်။ ဘုရင်ကလည်း "လေသာဆောင်တွင် စောင့်နေ ထမ်းရွက်စေ" ဟု အမိန့်တော်ရှိကာ အစောင့်အနေ ထားသည်။

တစ်ခါတွင် မုတ္တမမြို့၌ ထားသော ကင်းတပ်ကို ယိုးဒယားကင်းဝန်၊ ကင်းပတ်တို့က လာရောက် နှောင့်ယှက်ကြောင်း ကြားသိရ၍ မြင်းသည်ကျော်တို့ကို တောင်ငူကြောင်း ထောက်လှမ်း စုံစမ်းစေတော်မူရာ ပြန်ရောက်လာခဲ့သောကြောင့် ဥဒိန်ကျော်ခေါင်နတ်ကို ထောက်လှမ်း စုံစမ်းရန် စေလွှတ်တော်မူခဲ့သည်။

ဥဒိန်ကျော်ခေါင်နတ်သည် နေပြည်တော် (ရွှေဘိုမြို့) သို့ နေ့တွင်းချင်း ပြန်ရောက်လာပြီး လျှင် "မုတ္တမမြို့မှာ အရေးအကြောင်း မရှိကြောင်း၊ အလျင် စေလွှတ်လိုက်သော မြင်းသည်ကျော်တို့ သည် အပြန်လမ်း တောင်ငူမြို့ ခပေါင်းမြစ် ချောင်းကမ်းထိပ် မန်ကျည်းပင်အောက်မှာ ထမင်းချက်၍ နေကြသည်ကိုလည်း မြင်ခဲ့ရကြောင်း၊ မိမိ လာကြောင်း သိသာသေချာအောင် မန်ကျည်းခက်များကို ချိုးဖဲ့၍ ချခဲ့ကြောင်း၊ မန်ကျည်းပင်ကိုလည်း လှုပ်၍ ချောက်လှန့်ခဲ့သေးကြောင်း၊ မုတ္တမမြို့ဝန်ထံမှ ငြိမ်ဝပ်သာယာ ရှိကြောင်း တင်လျှောက်စာလည်း ထို မြင်းသည်ကျော်တို့တွင် ပါရှိကြောင်း" ဖြင့် နတ်က လျှောက်ထားနှင့်လေသည်။

မြင်းသည်ကျော်တို့ ပြန်လည် ရောက်ရှိလာ၍ မေးမြန်းသောအခါ နတ်ပြောသည့်အတိုင်း အားလုံးစုံ မှန်ကန်နေကြောင်း တွေ့ရှိရလေသည်။

ဥဒိန်ကျော်ခေါင်နတ်က "မိမိ အမှုထမ်းရသည့်အတွက် ဘွဲ့ အသနားတော်မြတ် ခံလိုကြောင်း" လျှောက်တင်သောအခါ ဘုရင်မင်းမြတ်က "ဇဝနယက္ခ ကျော်ခေါင်" ဟူသော ဘွဲ့ကို ရွေပြား၌ ရေးသား၍ ကလပ်ပေါ်တွင် တင်ကာ ပေးသနားတော်မူသည်။ "ကိုယ်ထင်ပြ၍ ဘွဲ့ကို ယူရမည်" ဟု ဘုရင်က မိန့်တော်မူသောအခါ "မိမိမှာ အလွန်ပင် အရုပ်အဆင်း ဆိုးဝါးလှသဖြင့် ရုပ်ကို မပြလိုကြောင်း၊ သို့သော် ထင်ရှားအောင်ကား ယူ၍ ပြပါမည်" ဟု ဆို၍ မှူးမတ်တို့ အလယ်တွင် ထို ဘွဲ့ပုံကို ချည်ကြိုးဖြင့် ဆွဲယူသွားသည်ကို မှူးမတ်အများ မြင်လိုက်ကြရလေသည်။ ထို ဘွဲ့ပုံ တံဆိပ်ကိုလည်း လေသာဆောင် ထုတ်လျှောက်ကြားတွင် ထားရှိရလေသည်။

ဤ ဥဒိန်ကျော်ခေါင်နတ် အကြောင်းကား ရာဇဝင်ကြီးများ၌ မပါ၊ လေ့သင်းအတွင်းဝန် ဦးချိန် ရေးသား ပြုစုသော "တဇ္ဇုတ္တဒီပနီကျမ်း" ၌ ပါရှိသောအကြောင်း ဖြစ်သည်။

ဤကား ရှေးဟောင်း ရာဇဝင်ကြီးများ၌ နေရာပေး ဖော်ပြထားရသော နတ်များနှင့် ယင်းနတ်များနှင့် လူသားတို့၏ ဆက်ဆံရေး အချို့အဝက် ဖြစ်သည်။

နတ်နှင့် လူသားတို့၏ ဆက်ဆံရေးမှာ ထူးဆန်းသည်။ အံ့သြစရာလည်း ကောင်းသည်။ ထို့ကြောင့် လူလူချင်း ဆက်ဆံရေးထက် နတ်နှင့် လူသားတို့၏ ဆက်ဆံရေးမှာ ပို၍ စိတ်ဝင်စားစရာလည်း ကောင်းသည်။ ပို၍ သတိမူစရာလည်း ကောင်းသည်။ လူလူချင်းကဲ့သို့ အမှတ်တမဲ့ ဆက်ဆံ၍ မဖြစ်သောကြောင့်တည်း။

"သတိမူစရာ" ဆိုသည်မှာ နတ်နှင့် လူသားတို့၏ ဆက်ဆံရေးအနေဖြင့် ပုံမှန်ဖြစ်ဘို့ လိုသည်ဟု ဆိုလိုသည်။ နတ်နှင့် လူသားတို့၏ ပုံမှန် ဆက်ဆံရေးကို ဤစာအုပ် အဆုံးနား၌ ရှင်းလင်း ဖော်ပြပါမည်။



စင်စစ် ပုဂံ ရာဇဝင်၊ ဦးကုလား ရာဇဝင်၊ မှန်နန်း ရာဇဝင် စသည်တို့ကို ရေးသား ပြုစုခဲ့သူများသည် လူညံ့များ မဟုတ်ကြပေ၊ မှန်နန်း ရာဇဝင်ကြီးကို ရေးသား ပြုစုခဲ့ကြသော ဒုတိယ မုံရွေး ဇေတဝန်ဆရာတော်၊ သော်ကပင် ဆရာတော်၊ မင်းတိုင်ပင် အမတ်ကြီး မဟာဓမ္မသင်္ကြံ စသူတို့မှာ ဘုရားဟော ပိဋကတ် စာပေများနှင့်တကွ အထွေထွေဗဟုသုတ ပြည့်ဝ ကုံလုံသူများ ဖြစ်သည်။

ယင်း ပညာရှင်ကြီးများသည် အထက်ပါ နတ်နှင့် လူသားတို့၏ ဆက်ဆံရေးများကို မှန်နန်း ရာဇဝင်ကြီး၌ နေရာပေးကာ မှတ်တမ်းတင် ရေးသားထားခဲ့ကြခြင်းမှာ အကြောင်းယုတ္တိမဲ့တော့ မဟုတ်တန်လေရာ၊ ခိုင်လုံသော အကိုးအထောက်များ ရှိ၍သာ မှတ်တမ်းတင် ရေးသားထားခဲ့ကြခြင်း ဖြစ်ရပေသည်။

## နတ်နှင့် အမျိုးတော်စပ်သော ဒေါက်တာ ထင်အောင်

ဤ၌ ယခု မျက်မှောက်ခေတ်တွင် ၃၇ မင်းနတ်နှင့် အမျိုးတော်စပ်သူ တစ်ဦးကို ဖော်ပြလိုပေသည်။ ထိုသူကား ရန်ကုန်တက္ကသိုလ် ပါမောက္ခချုပ်ဟောင်း ဒေါက်တာ ထင်အောင် ဖြစ်သည်။

ဒေါက်တာ ထင်အောင်က သူ၏ **Folk Elements Burmese Buddhism** စာအုပ်၌ "အပြင် ၃၇ မင်း နတ်များတွင် တစ်ပါး အပါအဝင် ဖြစ်သော ရွှေနဘေမှာ သူ၏ ဘိုးဘွားဘီဘင် မိသားစု၌ တစ်ဦးအဖြစ် ပါဝင်ခဲ့၍ သူနှင့် ဆွေမျိုးတော်စပ်ခဲ့ကြောင်း" ဖော်ပြထားသည်။

ယင်းစာအုပ်တွင် ဒေါက်တာ ထင်အောင်က "မြန်မာ့သမိုင်း၌ ထင်ရှားသော သရေခေတ္တရာ မင်းဆက်များ ကောင်းစားချိန်မှ စ၍ ဗြိတိန်- မြန်မာ ပဌမစစ်ပွဲ ဖြစ်ပွားသော ၁၈၂၄ ခုနှစ် အထိ သူ၏

မိဘ၊ ဘိုးဘွား၊ ဘီဘင် မိသားစုများသည် မင်းတုံးမြို့၌ ရှိနေခဲ့ကြောင်း၊ မင်းတုံးမြို့သည် ရောဝတီ မြစ်စဉ် ခုနစ်ခရိုင်၏ မြို့တော်ဖြစ်ကြောင်း၊ ရွှေနဘေသည် မင်းတုံးမြို့မှ ဖြစ်၍ နဂါးမင်း၏ သမီးဖြစ်ကြောင်း၊ ရွှေနဘေသည် သာမန် လူသားတစ်ဦးနှင့် အိမ်ထောင်ကျပြီး သား ၂ ယောက် မွေးဖွားခဲ့ကြောင်း၊ ရေးရိုးရာ မိသားစု အစဉ်အလာအရ ရွှေနဘေသည် သူမယောက်ျား၏ အောင်မြင်မှုအရ မင်းတုံးမြို့တွင် ပြည်ဘုရင်၏ ကိုယ်စားလှယ်အဖြစ် ခန့်အပ်ခြင်း ခံရကြောင်း၊ သူမ၏ သား ၂ ယောက်မှာလည်း ပြည်မြို့တွင် ဘုရင့် (ဒွတ္တပေါင်မင်းကို ဆိုလိုသည်) အမှုတော်ကို ထမ်းဆောင်ကြကြောင်း၊ ရွှေဖြင့် ပြုလုပ်ထားသော ဝတ်ရုံကို ဆင်မြန်းခွင့် ရသောကြောင့် "ရွှေနံဘေး" **(The Lady Golden Side)** ဟု အမည်တွင်ခဲ့ကြောင်း၊ နောက် သူမမှာ လင်ယောက်ျား၏ စွန့်ပစ်ခြင်းကို ခံရပြီးနောက် စိတ်ဒုက္ခရောက်ပြီး သေဆုံးကာ နတ်ဖြစ်ခဲ့ကြောင်း၊ နတ်အဖြစ်ဖြင့် မင်းတုံးမြို့တွင် လူအများက ကိုးကွယ်ခဲ့ကြကြောင်း၊ ရွှေနဘေသည် ပျူနတ် ဖြစ်ကြောင်း" စသည်ဖြင့် စိတ်ဝင်စားဖွယ်ရာ ရေးသား ဖော်ပြထားသည်။

ဒေါက်တာ ထင်အောင်သာ မဟုတ်ပေ။ ဒေါက်တာ ထင်အောင် ကဲ့သို့ပင် ၃၇မင်းနတ်များ၏ အဆက်အနွယ်ဖြစ်၍ ယင်းနတ်များနှင့် ဆွေမျိုးတော်စပ်သူ အများအပြားပင် ယခု မျက်မှောက်ခေတ်၌ ရှိနိုင်ပေသေးသည်။ ဒေါက်တာထင်အောင်ကဲ့သို့ မှတ်တမ်းမှတ်ရာ မရှိခဲ့၍သော် လည်းကောင်း၊ ဒေါက်တာထင်အောင်ကဲ့သို့ ဖော်ထုတ်ဝန်ခံ မရေးသားခဲ့သောကြောင့်သော် လည်းကောင်း အထင်အရှား မသိကြရခြင်း ဖြစ်သည်။

**ပိဋကတ, က နေရာပေးထားရသော နတ်များ**

ထို့ပြင် ဗုဒ္ဓဘုရားရှင် ကိုယ်တော်တိုင်ကလည်း လူ့လောက၏ အကြောင်းခြင်း တရားများကို ဟောထားတော်မူသကဲ့သို့ နတ်လောက၏ အကြောင်းခြင်းတရားများကိုလည်း ဟောထားခဲ့သည်။ ထို





နိကာယ် ပါဠိတော်များကို ကြည့်လျှင် ဗုဒ္ဓဘုရားရှင် ကိုယ်တော်တိုင် နတ်တို့ကို နေရာ ဌာနပေါင်း များစွာ၌ နေရာပေးထားကြောင်း တွေ့ရှိနိုင်ပေသည်။ နတ် တောင်းပန်၍ ဟောထားသော သုတ္တန်များ၊ သိကြား တောင်းပန်၍ ဟောထားသော သုတ္တန်များ အများအပြား ရှိသည်။ ဒေဝတာ သံယုတ်၊ သက္က သံယုတ် စသည်တို့ကို ကြည့်လျှင် ထင်ရှားလှပေသည်။

သုတ်ပါထေယျ ပါဠိတော် အာဋ္ဌာနာဋိယ သုတ်ကြီးတွင် ဗုဒ္ဓဘုရားရှင်က နတ်မင်းကြီး ၄ ပါး နှင့် နတ်စစ်သူကြီး ၂၈ ပါးတို့အပြင် ဂန္ဓဗ္ဗနတ်၊ ကုမ□ဏ်နတ်၊ ရက္ခိုသ်နတ် စသည်တို့၏ အကြောင်းများကိုပါ ဟောထားတော်မူခဲ့သည်။

သုတ်မဟာဝါ ပါဠိတော် မဟာသမယသုတ်တွင်လည်း ဗုဒ္ဓဘုရားရှင် ဟောထားတော်မူခဲ့သော နတ် အများအပြားကို တွေ့ရှိနိုင်ပေသည်။

သုတ်မဟာဝါ ပါဠိတော် မဟာပရိနိဗ္ဗာန သုတ်၊ ခုဒ္ဒကပါဌ ပါဠိတော်၊ သုတ္တနိပါတ ပါဠိတော် ရတနသုတ်၊ ပဉ္စင်္ဂုတ္တရ ပါဠိတော် မုဏ္ဍာရာဇဝဂ် ပဥ္စမသုတ် စသည်တို့တွင်လည်း နတ်နှင့် လူသားတို့၏ ပုံမှန်ဆက်ဆံရေးများကို ဗုဒ္ဓဘုရားရှင် ဟောထားတော်မူခဲ့သည်။

ယင်းကဲ့သို့ သမိုင်း အထောက်အထားများ ဘုရားဟော ပိဋကတ် စာပေ အထောက်အထား များနှင့် ဒေါက်တာထင်အောင် ကဲ့သို့သော မျက်မှောက်ခေတ် အထောက်အထားများ အရ နတ်ဆိုသည်မှာ တကယ်ကေန် ရှိကြောင်း ထင်ရှားလှပေသည်။

**နတ်သက်တမ်းအရ စိစစ် ကြည့်သင့်ခြင်း**

သို့သော် တစ်ခုတော့ ပြောစရာ ရှိသည်။ သင်္ခါရ လောကအတွင်း၌ တည်ရှိနေသော နတ်လောကသည်လည်း လူ့လောကကဲ့သို့ သင်္ခါရတရားကို မလွန်ဆန်နိုင်သည့် အတိုင်း -

- ဘုရားရှင် လက်ထက်က နတ်များသည် ယခုအချိန်အထိ ရှိနိုင်, မရှိနိုင်။
- ပျူခေတ် နတ်၊ ပုဂံခေတ် နတ်၊ ပင်းယခေတ် နတ်၊ အင်းဝခေတ် နတ်၊ ကုန်းဘောင်ခေတ် နတ်များသည်လည်း ယခုအချိန်အထိ ရှိနိုင်, မရှိနိုင်။

စသည်တို့ကိုကား တွက်ချက်ကြည့်ဘို့တော့ လိုပေမည်။ ယင်းသို့ တွက်ချက်ကြည့်ရန် အတွက် ယင်းနတ်များသည် -

- စတုမဟာရာဇ် နတ်၊ တာဝတိံသာ နတ်၊ ယာမာ နတ် စသည်တို့လော။
- ဂန္ဓဗ္ဗ နတ်၊ ကုမ□ဏ် နတ်၊ ရက္ခိုသ် နတ် စသည်တို့လော။
- ပျူခေတ် နတ်၊ ပုဂံခေတ် နတ်၊ ပင်းယခေတ် နတ်၊ အင်းဝခေတ် နတ်၊ ကုန်းဘောင်ခေတ် နတ် စသည်တို့လော။
- သို့မဟုတ် နတ်ဟူ၍ အမည်ခံယူထားသော ဝေမာနိက အမျိုးအနွယ်ဝင် အစိမ်းနတ်များလော -

စသည်ဖြင့် နတ်အမျိုးအစားကို ပဌမဆုံး ခွဲခြား စိစစ်ရမည်။

ယင်းသို့ စိစစ် သိရှိပြီးမှ ယင်းတို့၏ နတ်သက်တမ်းကို လူ့သက်တမ်းနှင့် စိစစ်ညှိနှိုင်း တွက်ချက်ကြည့်ရမည်၊ လူ့ပြည်၌ နှစ်ပေါင်း ၅၀ သည် စတုမဟာရာဇ်၌ တစ်ရက် ဖြစ်၍ လူ့ပြည်၌ နှစ်ပေါင်း ၁၀၀ သည် တာဝတိံသာ၌ တစ်ရက် ဖြစ်သည် စသည်ဖြင့် တွက်ချက်ကြည့်ရမည်ဟု ဆိုလိုသည်။

သို့မှသာ ယခုအချိန်အထိအောင် မည်သည့် နတ်သည် အသက် ရှည်နိုင်သေး၍ မည်သည့် နတ်က အသက်မရှည်နိုင်တော့ကြောင်း သိရှိရမည် ဖြစ်ပေသည်။

(၂)

## နတ်ကိုးကွယ်မှု အစဉ်အလာ

### ကမ္ဘာ့ နတ်ကိုးကွယ်မှု အစ

နတ်ကိုးကွယ် တင်မြှောက်မှုသည် ယခုခေတ်မှသာ ရှိသည်မဟုတ်၊ ဗုဒ္ဓခေတ်ကျမှ ပေါ်ပေါက်လာသည်လည်း မဟုတ်၊ ကမ္ဘာတည်ဦးကပင် ရှိနေခဲ့သည့် အစဉ်အလာ ဖြစ်သည်။

ယင်း နတ်ကိုးကွယ်မှု အစဉ်အလာသည် မြန်မာနိုင်ငံ၌သာ ရှိနေသည် မဟုတ်၊ မိမိတို့ လူမျိုး၏ ဓလေ့ထုံးတမ်း အစဉ်အလာများအရ ကမ္ဘာအရပ်ရပ်၌လည်း ရှိနေခဲ့သည်။

ကမ္ဘာ့သမိုင်းတွင် ထင်ရှားခဲ့သော ဂရိလူမျိုးများ၊ ရောမလူမျိုးများ၊ ဗေဗီလုံလူမျိုးများ၊ အီဂျစ်လူမျိုးများ စသည်တို့သည် သူတို့လူမျိုးများ၏ ဓလေ့ထုံးစံအလိုက် နတ်ကိုးကွယ် တင်မြှောက်မှု အစဉ်အလာများ ရှိခဲ့ကြသည်။

ရှေး ဂရိလူမျိုးများသည် ဇုနတ်ကို လည်းကောင်း၊ ရှေး ရောမလူမျိုးများသည် ဂျူပီတာနတ်ကို လည်းကောင်း၊ ရှေး ယဟူဒီလူမျိုးများသည် ဆဒိုနေနတ်ကို လည်းကောင်း၊ ရှေး ခရစ်ယာန်များသည် ဂျိဟိုးဗားနတ်ကို လည်းကောင်း ဤသို့ အစရှိသည်ဖြင့် အသီးသီး ကိုးကွယ်မှု အစဉ်အလာများ ရှိခဲ့ကြသည်။

အိန္ဒိယနိုင်ငံတွင် မူလရှိရင်း တိုင်းရင်းနတ်များကိုအပြင် လွန်ခဲ့သော နှစ်ပေါင်း ၃၀၀၀ ကျော် ၄၀၀၀ လောက်က အနောက်မြောက်မှ ဝင်ရောက်လာသော အာရယန်လူမျိုးတို့ ကိုးကွယ်သည့် နတ်များ ပါ၍လာရာ လက်ချိုးရေတွက်၍ မရနိုင်အောင် သန်းနှင့်ချီ၍ နတ်များ ရှိနေပေသည်။

### မြန်မာ့ နတ်ကိုးကွယ်မှုအစ

ထို့အတူ မြန်မာနိုင်ငံ၌ နတ်ကိုးကွယ်မှု အစဉ်အလာသည်လည်း အက္ခရာတင် သမိုင်းများ မပေါ်မီကပင် ရှိနေခဲ့ရမည် ဖြစ်သည်။ အက္ခရာတင် သမိုင်းများ၌ကား အေဒီ လေးရာစု ပုဂံခေတ် ဦးပိုင်းကပင် နတ်ကိုးကွယ် တင်မြှောက်မှုများ အကြီးအကျယ် အထင်အရှား ထွန်းကားလာကြောင်း အမှတ်အသား တွေ့ရှိနေရပေသည်။

အထက် တကောင်းမြို့၌ ပန်းဘဲ မောင်တင့်တယ်သည် ခွန်အားဗလ ကြီးမား သန်စွမ်းလှသည်ကို တကောင်းဘုရင်က စိုးရိမ်သဖြင့် ဖမ်းဆီးရာ ထွက်ပြေးရသည်။ ထိုအခါ တကောင်းဘုရင်က မောင်တင့်တယ် နှမအကြီး စောမယ်ယာကို မိဖုရား မြှောက်ပြီးလျှင် မောင်တင့်တယ်ကို မြို့သူကြီး ခန့်မည်ဟု လှည့်ဖြားခေါ်ယူကာ စကားပင်၌ ချည်၍ ဖိုကျင်ထိုး သတ်သည်။ ဤတွင် နှမဖြစ်သူ မိဖုရား စောမယ်ယာကလည်း "ငါ့ကြောင့် ငါ့မောင် သေရလေသည်" ဟု ထိုမီးပုံတွင် ခုန်ဆင်းရာ မောင်နှမ နှစ်ယောက်လုံး သေ၍ နတ်မောင်နှမ ဖြစ်ကြသည်ဟု အက္ခရာတင် သမိုင်းဟောင်းများ၌ ဆိုသည်။

ယင်း နတ်မောင်နှမသည် စကားပင်၌ နေကြ၍ စကားပင်အောက်သို့ ရောက်ရှိလာသမျှ လူသူ ဆင်မြင်း ကျွဲနွား စသည်တို့ကို ဖမ်းစား၍ သေကြေ ပျက်စီးကြသည်။ ထို့ကြောင့် ယင်း စကားပင်ကို

အမြစ်မှတူးပြီး ရောဝတီမြစ်ထဲသို့ မျှောပစ်လိုက်ရာ အဆိုပါ နတ်မောင်နမ ပါလာသော စကားပင်သည် ပုဂံနေပြည်တော် ကျေးလက် ညောင်ဦးကမ်းပါးသို့ ဆိုက်ရောက်လာသည်။

ထိုအချိန်၌ ပုဂံနေပြည်တော်တွင် ပုဂံမင်းဆက် ခုနစ်ဆက်မြောက် ဖြစ်သော သေလည်ကြောင်မင်း (၂၆၆- ၃၀၉) နန်းစံလျက် ရှိသည်။ ညောင်ဦးကမ်းပါးသို့ စကားပင် ဆိုက်ကပ်လာသောည လင်းအားကြီးအချိန်တွင် "တကောင်းပြည်မှ ငါတို့ နတ်မောင်နမ စကားပင်ကို စီး၍ မျောလာပြီး မင်းကြီး၏ ပုဂံပြည်သို့ ရောက်လာသည်။ သင့်တင့်လျောက်ပတ်သော နေရာ၌ နတ်ကွန်း နတ်နန်းနှင့် ထားလျှင် အသင်မင်းကြီးနှင့် တကွ တိုင်းသူပြည်သားတို့ကို စောင်မ ကြည့်ရှုမည်" ဟု မင်းကြီးအား အိပ်မက်ပေးသည်။

ထို့ကြောင့် သေလည်ကြောင်မင်းကြီးသည် စကားပင်ကို ဆယ်ယူ၍ နတ်မောင်နမ အရုပ် ထုလုပ်ပြီးလျှင် ပုပ္ပားတောင်၌ နတ်ကွန်း နတ်နန်းနှင့် ထားလျက် ရှင်ဘုရင်မှ စ၍ မှူးထမ်း ရာထမ်း ပြည်သူပြည်သား အားလုံး တစ်နှစ်တစ်ကြိမ် ပုပ္ပားတောင်၌ နတ်ပူဇော်ပွဲကြီးကို ပွဲလမ်းသဘင် အကြီးအကျယ် ဆင်ယင်ကျင်းပ ကိုးကွယ် ပူဇော်ကြသည်။

ထိုမျှသာ မကသေး၊ ပုဂံပြည်၌ ပြည်သူပြည်သားတို့၏ အိမ်ရှေ့တွင်လည်း နတ်ကွန်း နတ်နန်းများ ဆောက်လုပ်ကာ ကိုးကွယ်ကြသေးသည်။

ယင်းကဲ့သို့ သေလည်ကြောင်မင်း လက်ထက် အေဒီ လေးရာစု ပုဂံခေတ်ဦးတွင် မောင်တင့်တယ် နတ်မောင်နမကို ကိုးကွယ်ရာမှ စတင်ကာ မြန်မာနိုင်ငံ၌ နတ်ကိုးကွယ်မှု အစဉ်အလာများ စတင်ခဲ့ခြင်း ဖြစ်ပေသည်။

ထို့နောက် ပုဂံခေတ်မှာပင် အနော်ရထာဘုရင် (၄၀၆- ၄၃၉) လက်ထက်၌ ရွှေဖျဉ်းညီနောင် နတ် ပေါ်ပေါက်လာသည်။ ယင်း မင်းညီနောင် နတ်ကို တောင်ပြုံးတွင် နှစ်စဉ် ပွဲလမ်းကြီးများဖြင့် ကြီးကျယ်ခမ်းနားစွာ ပူဇော် ပသခဲ့ကြသည်။ ယင်း တောင်ပြုံးနတ်ပွဲ ကျင်းပ ပူဇော် ပသသည့် အစဉ်အလာသည် ယနေ့ခေတ်တိုင်အောင် နှစ်စဉ် စည်ကားစွာ ကျင်းပပြုလုပ်လျက် ရှိကြသည်။

ဤကား အကွာရာတင် သမိုင်းများအရ မြန်မာနိုင်ငံ၌ နတ်ကိုးကွယ်မှုများ စတင်ခဲ့ပုံကို သိရှိရခြင်း ဖြစ်သည်။

အမှန်မှာ အကွာရာတင် သမိုင်းအမှတ်အသား မရှိသည့်တိုင်အောင် ပုဂံခေတ် မတိုင်မီ သရေခေတ္တရာ ခေတ်ကပင် ပျူနတ်များလည်း ရှိနေ၍ ယင်း ပျူနတ်များကိုလည်း ကိုးကွယ်မှုများ ရှိနေပြီဟု ယူဆရသည်။ အဘယ့်ကြောင့်ဆိုသော် ရွှေနဘေ နတ်၊ သုံးပန်လှ နတ်၊ မနဲလေး နတ် စသော မင်းမဟာဂီရိနတ်နှင့် ကွင်းဆက် နတ်များမှာ ပျူနတ်များ ဖြစ်နေသောကြောင့်တည်း။ ရွှေနဘေနတ် ဆိုလျှင် သရေခေတ္တရာ ခေတ်ကပင် မင်းတုံးမြို့နယ်၌ ကိုးကွယ်နေပြီဖြစ်သည်။

(၃)

## ၃၇ မင်း သမိုင်း

### မြန်မာနိုင်ငံနှင့် "၃၇"

မြန်မာနိုင်ငံတွင် ဘာသာရေး၌ လည်းကောင်း၊ လောကီ ပညာရပ်များ၌ လည်းကောင်း ထိပ်တန်းက နေရာ ယူနေသော ဂဏန်းများ ရှိသည်။ ၎င်းတို့မှာ -

| | |
|---|---|
| ၃ ဂဏန်း | ၇ ဂဏန်း |
| ၅ ဂဏန်း | ၉ ဂဏန်း |
| ၃၇ ဂဏန်း | |

တို့ ဖြစ်သည်။ ၃ ဂဏန်းကို သရဏဂုံ ၃ ပါးနှင့် တွဲဖက်ထားသောကြောင့် လည်းကောင်း၊ ၅ ဂဏန်းကို ၅ ပါးသီလနှင့် တွဲဖက်ထားသောကြောင့် လည်းကောင်း၊ ၇ ဂဏန်းကို သူတော်ကောင်း ဥစ္စာ၊ ၉ ဂဏန်းကို ဘုရားဂုဏ်တော် ၉ ပါးနှင့် တွဲဖက်ထားသောကြောင့် လည်းကောင်း၊ ၃၇ ဂဏန်းကို ဗောဓိပက္ခိယတရား ၃၇ ပါးနှင့် တွဲဖက်ထားသောကြောင့် လည်းကောင်း ဗုဒ္ဓဘာသာဝင်များအဘို့ ယင်း ဂဏန်းများအပေါ် အလေးထားခဲ့ကြရသည်။

ထို့ပြင် လောကီပညာ အစီအရင်များ၌လည်း ဂါထာ မန္တာန်ကို ၃ အုပ် စုပ်ရမည်၊ ၇ အုပ် စုပ်ရမည်၊ ၉ အုပ် စုပ်ရမည်၊ ၃၇ အုပ် စုပ်ရမည် စသည်ဖြင့် ထိပ်တန်းက နေရာယူထားသည်ကို တွေ့ရှိရသည်။

၃၇ ဂဏန်းမှာမူ ယင်းကဲ့သို့ ဘာသာရေးနှင့် လောကီ ပညာရပ်များအပြင် -

| | |
|---|---|
| အသံ ၃၇ ချင်း၊ | ဒိုင်းရေး ၃၇ ချင်း၊ |
| အဆို ၃၇ ချင်း၊ | ကာရေး ၃၇ ချင်း၊ |
| သဘင် ၃၇ ရပ်၊ | အဲမောင်းရေး ၃၇ ချင်း၊ |
| ဓားရေး ၃၇ ချင်း၊ | တက်ရေး ၃၇-ချင်း၊ |
| သိုင်းရေး ၃၇ ချင်း၊ | |

စသည်ဖြင့် စာပေ အနုပညာနှင့် စစ်သေနင်္ဗျူဟာ စသော စစ်ရေး၊ လူမှုရေး၊ ယဉ်ကျေးမှု တို့၌လည်း သုံးနှုန်းထားသည်ကို တွေ့ရှိရသည်။

ထို့ပြင် ဗုဒ္ဓဘုရားရှင်ကလည်း သုတ်ပါထေယျ ပါဠိတော် အာဋာနာဋိယ သုတ်ကြီးတွင် နတ်စစ်သူကြီး ၃၇ ပါး ရှိကြောင်း ဟောထားတော်မူခဲ့သည်။

ထို့ကြောင့်လည်း ၃၇ ဂဏန်းသည် မြန်မာလူမျိုး ဘာသာဝင်များ၏ နားထဲ၌ ပုဂံခေတ်ဦးပိုင်းမှ စ၍ ယဉ်ပါးလျက် ရှိနေပြီး ဗုဒ္ဓဘာသာဝင်များ၏ နားတွင် မြင့်မားသောအရပ်မှ နေရာယူလျက် ရှိနေပြီဟု ဆိုရပေမည်။

**၃၇ မင်း စတင် ဖြစ်ပေါ်လာခြင်း**

ပုဂံခေတ် အနော်ရထာလက်ထက် မတိုင်မီက မြန်မာနိုင်ငံတွင် ထေရဝါဒ ဗုဒ္ဓသာသနာ ရှိပင်ရှိနေသော်လည်း မဟာယာန ဗုဒ္ဓသာသနာဝင် မန္တရယာန၊ တန္တရယာန အရည်းကြီးများက လွှမ်းမိုးနေသည်။ နတ်ကိုးကွယ်မှုများကလည်း လိုအပ်သည်ထက် ပို၍ ရှေ့တန်းရောက်လျက် ရှိသည်။

အေဒီ ၄ ရာစု သေလည်ကြောင်မင်း (၂၆၆- ၃၀၉) လက်ထက်မှ စ၍ မင်းနှင့်တကွ ပြည်သူများ ကိုးကွယ်ခံခဲ့ရသော မင်းမဟာဂီရိ နတ်မောင်နှမများ၏ အရှိန်အဟုန်ကလည်း မြင့်မားနေချိန် ဖြစ်သည်။

ထိုအချိန်က နတ်ကိုးကွယ်သူများသည် မိမိတို့၏ အိမ်ရှေ့တွင် နတ်ကွန်း နတ်အိမ် ဆောက်လုပ်၍ နတ်ရုပ်များ သွင်းထားကာ နေ့စဉ်နေ့တိုင်း အစားအစာ တင်မြှောက်ပသ ပူဇော်ခဲ့ကြသည်။

ယင်းကဲ့သို့ နတ်ကိုးကွယ်မှုများ ရှေ့တန်းရောက်လာပြီး အလွန်အကျွံ ဖြစ်လာမှု၊ နတ်နှင့် လူ ပုံမှန်ဆက်ဆံရေးထက် ကျော်လွန်မှုများကြောင့် အနော်ရထာမင်းကြီးသည် မင်းမိန့်ဖြင့် နတ်ကွန်း နတ်အိမ်တို့ကိုလည်း ဖျက်စေ၍ ယင်း နတ်ရုပ်များကိုလည်း စုရုံး သိမ်းကြုံးဖြင့် ချည်တွဲကာ ပုဂံ ရွှေစည်းခုံဘုရား တံတိုင်းအတွင်း၌ စုရုံးထားရှိခဲ့သည်။ ယင်း နတ်ရုပ်များကို ရွှေစည်းခုံဘုရား တံတိုင်းအတွင်း ဒေါင့်တဒေါင့်၌ ယခုတိုင်အောင် တွေ့မြင်နိုင်ကြပေသည်။

ထိုအချိန်က ရွှေစည်းခုံဘုရား တံတိုင်းအတွင်း၌ ထားရှိသော နတ်များကို အတွင်း ၃၇ မင်း နတ်များအဖြစ် သတ်မှတ် ခေါ်ဝေါ်ခဲ့ကြသည်။ ထို့အတူ ရွှေစည်းခုံဘုရား တံတိုင်းအပြင်၌ ထားရှိသော နတ်များကိုလည်း အပြင် ၃၇ မင်း နတ်များအဖြစ် သတ်မှတ် ခေါ်ဝေါ်ခဲ့ကြသည်။ သို့သော် ပုဂံခေတ်က အတွင်း ၃၇ မင်းမှာ ၃၇ ပါးလုံး အရေအတွက် ပြည့်သော်လည်း အပြင် ၃၇ မင်းမှာ ၃၇ ပါးလုံး အရေအတွက် မပြည့်သေးပေ။ ၂၂ ပါးသာ ရှိသေးသည်။ နောင် တောင်ငူခေတ်ကျမှ အပြင် ၃၇ မင်းမှာ ၃၇ မင်းလုံး ပြည့်ခဲ့သည်။

အတွင်း၊ အပြင် ဟူသော ဝေါဟာရမှာ ရွှေစည်းခုံဘုရား တံတိုင်း၏ အတွင်း၊ အပြင် ဟူသော တည်ရာဌာနကို အစွဲပြု၍ ဖြစ်ပေါ်လာခြင်း ဖြစ်သည်။ အာဠွာနဒ္ဒီယ သုတ်ကြီး၌ ဗုဒ္ဓဘုရားရှင် ဟောထားတော်မူခဲ့သော နတ်စစ်သူကြီး ၃၇ ပါးကို အတုယူကာ အထက်ပါ အတွင်း၊ အပြင် ဟူသော ဝေါဟာရနှင့် တွဲဖက်၍ အတွင်း ၃၇ မင်း နတ်၊ အပြင် ၃၇ မင်း နတ်ဟု ပုဂံခေတ် ပညာရှင်များက သတ်မှတ်ခဲ့ဟန် တူပေသည်။

သတ်မှတ်ခဲ့သည့်အတိုင်း ၃၇ ဂဏန်းမှာလည်း ထိုအချိန်က ပြည်သူတို့၏ နား၌ ယဉ်ပါးကာ မြင့်မြင့်မားမား နေရာယူထားပြီ ဖြစ်သဖြင့် အတွင်း ၃၇ မင်း၊ အပြင် ၃၇ မင်း ဟူသော အမည်များသည် တွင်ကျယ်ခဲ့ခြင်း ဖြစ်သည်ဟု ယူဆနိုင်ပေသည်။

**ဘုရားပေါ ၃၇ မင်း**

အတုယူမည် ဆိုကလည်း အတုယူစရာ ဖြစ်သည်။ အဘယ်ကြောင့် ဆိုသော် အာဋ္ဌာနာဋိယ သုတ်၌ ပါရှိသော နတ်စစ်သူကြီး ၃၇ ပါးအနက် ၂၈ ပါးကို ပုဂံမြို့ အာနန္ဒာဘုရား အတွင်း၌ ထုလုပ်ထားရှိရာ ရွှေစည်းခုံဘုရား ရင်ပြင်မှ နတ်ရုပ်များအနေဖြင့် အတုယူစရာ ဖြစ်နေသောကြောင့် ဖြစ်သည်။

ယင်း နတ်စစ်သူကြီး ၂၈ ပါး အနက် ကျန်စစ်မင်းကြီး တည်သော အာနန္ဒာဘုရား၏ မြောက်ဖက်မုခ် အရှေ့ဖက်တန်းတွင် ၁၄ ရုပ်၊ တောင်ဖက်မုခ် အရှေ့ဖက်တန်းတွင် ၁၄ ရုပ်ထားရှိရာ ယနေ့တိုင်အောင် တွေ့မြင်နိုင်ကြပေသည်။

ယင်း အာဋာနာဋိယ သုတ်ကြီး၌ ပါရှိသော နတ်စစ်သူကြီး ၃၇ ပါးမှာ အောက်ပါအတိုင်း ဖြစ်သည်။

၁။ ဣန္ဒ

၂။ သောမ

၃။ ဝရုဏ

၄။ ဘာရဒွါဇ

၅။ ပဇာပတိ

၆။ စန္ဒန

၇။ ကာမသေဋ္ဌ

၈။ ကိန္နုဃဏ္ဍု

၉။ နိဃဏ္ဍု

၁၀။ ပနာဒ

၁၁။ ဩပမည

၁၂။ မာတလိ

၁၃။ စိတ္တသေန

၁၄။ နဠောရာဇ

၁၅။ ဇနေသဘ

၁၆။ သာတာဂီရ

၁၇။ ဟေမဝတ

၁၈။ ပုဏ္ဏက

၁၉။ ကရတိယ

၂၀။ သိဝက

၂၁။ မုစလိန္ဒ

၂၂။ ဝေဿမိတ္တ

၂၃။ ယုဂန္ဓရ

၂၄။ ဂေါပါလ

၂၅။ သုပ္ပဂေဓ

၂၆။ ဟိရိ

၂၇။ နေတ္တိ

၂၈။ မန္ဒိယ

၂၉။ ပဉ္စာလစန္ဒ

၃၀။ အာဠဝက

၃၁။ ပဇ္ဇုန္န

၃၂။ သုမန

၃၃။ သုမုခ

၃၄။ ဒဓိမုခ

၃၅။ မဏိ

၃၆။ မာဏိဝရ

၃၇။ သေရီသက

ဤ နတ်စစ်သူကြီး ၃၇ ပါးကို အာနန္ဒာဘုရားအတွင်း၌ ထားရှိခြင်းကို ကြည့်ခြင်းဖြင့် ယင်း နတ်များကို ပုဂံခေတ်ကပင် လူအများ လေးစားကိုးကွယ်ခဲ့ခြင်း ဖြစ်ဟန်တူသည်ဟု ယူဆရပေသည်။

ယင်းသို့ ဘုရားဟော အာဋာနာဋိယ သုတ်ကြီး၌ ပါရှိသော နတ်များ ဖြစ်ကြသောကြောင့် ယင်း နတ်စစ်သူကြီး ၃၇ ပါးကို "ဘုရားဟော ၃၇ မင်း" ဟု သတ်မှတ်လိုက်ရခြင်း ဖြစ်ပေသည်။

## အတွင်း ၃၇ မင်း

အနော်ရထာမင်းကြီးက ပုဂံ ရွှေစည်းခုံဘုရား တံတိုင်းအတွင်းဘက်၌ စုရုံးထားခဲ့သော အတွင်း ၃၇ မင်း နတ်များမှာ အောက်ပါအတိုင်း ဖြစ်သည်။

၁။ **ဝေတရဋ္ဌ** (ဂန္ဓဗ္ဗနတ် ဖြစ်သည်။ နတ်ဝတ်တန်ဆာ ဒုယင် ဝတ်၍ လက်တစ်ဖက်က သံလျက် ကိုင်လျက် ဒူးတစ်ဖက်ထောင် တစ်ဖက်လှဲ။)

၂။ **ဝိရုဠှက** (ကုမ□ဏ်နတ် ဖြစ်သည်။ နတ်ဝတ်တန်ဆာ ၎င်းအတိုင်း။)

၃။ **ဝိရူပက္ခ** (နတ်နဂါး ဖြစ်သည်။ နတ်ဝတ်တန်ဆာ ၎င်းအတိုင်း။)

၄။ **ကုဝေရ** (နတ်ဘီလူး ဖြစ်သည်။ နတ်ဝတ်တန်ဆာ ၎င်းအတိုင်း။)

၅။ **သိကြား** (သိကြားနတ်ရုပ်အတိုင်း ခရုသင်း၊ သားမြီးယပ် ကိုင်သည်။)

၆။ **မဟောသရ** (နတ်အဝတ်တန်ဆာ၊ နွားလားဥသဘကို စီး၊ လှံသုံးခွကို ကိုင်။)

၇။ **မဟာပိန္နဲ** (နတ်ကိုယ်နှင့် ဆင်ဦးခေါင်း၊ လက်ျာဖက် လက်နှစ်ခွတွင် အထက်လက်မှာ ချွန်း၊ အောက်လက်မှာ သံလျက် ကိုင်ဟန်၊ လက်ဝဲလက် နှစ်ခွတွင် အထက်လက်မှာ စက်ဝန်း၊ အောက်လက်မှာ မိမိ ဦးခေါင်းရှိ ဆင်နှာမောင်းကို ကိုင်ဆုပ်နေဟန်၊ ကြွက်ယာဉ် စီးသည်။)

၈။ **စန္ဒီ** (နတ်သမီး၊ လက် ဆယ်ဖက်၊ လက်ျာဖက် ငါးဖက်မှာ ဓားလွယ်၊ သံလျက်၊ လှံ၊ သံချွန်၊ ဓားမြှောင် တစ်ခုစီ ကိုင်သည်။ လက်ဝဲ ငါးဖက်မှာ ဒိုင်း၊ ထီး၊ လေး၊ ပုတီး၊ ခရုသင်း တစ်ခုစီ ကိုင်သည်။ ပတ္တမြားနီ ခံသော ခြင်္သေ့ယာဉ် စီးသည်။)

၉။ **သူရဿတီ** (နတ်သမီး၊ ဥဂ္ဂါယဂင်စိုက်၊ နတ်တန်ဆာဆင်လျက် လက်နှစ်ဖက်မှာ ကြာပန်းကိုင်ပြီး ဟင်္သာငှက်ယာဉ်ပေါ် ထိုင်နေဟန်။)

၁၀။ **ပြဿဂ်ဳ= ရဿဂ်ဳ** (နတ်သမီး၊ လက်က ပန်းခိုင်ကိုင်၍ ဘုရားရှိခိုးနေဟန်။)

၁၁။ **စန္ဒာ** (စန္ဒီ နတ်သမီးအတိုင်း၊ နတ်သမီး တန်ဆာနှင့် နတ်သား တန်ဆာသာ ခြားနားသည်။)

၁၂။ **အာဋ္ဌဝီ** (မတ်ရပ်ထ၍ သံလျက်ကိုင်။)

၁၃။ **မာရ်နတ်** (လက်ဝဲ လက်ျာ လက် ဆယ်ခွစီ၌ လက်နက် တစ်မျိုးစီ၊ ပေါင်း လက်နက် အမျိုး နှစ်ဆယ် ကိုင်သည်။)

၁၄။ **သောတတာပန်** (အင်ကြင်းပင်စောင့်- အင်ကြင်းပန်းဖြင့် ဘုရားရှိခိုးနေဟန်။)

၁၅။ **အနာဂါမ်** (ရွှေသပိတ်စောင့်၊ ယင်နှင်နတ်၊ သပိတ်တော်အနီး ယပ် ခတ်နေဟန်။)

၁၆။ **ဇမ္ဗူဒီပ** (မတ်ရပ်ထ၊ သံလျက်ကန်။)

၁၇။ **ဇမ္ဗူတံဆိပ်** (၎င်းအတိုင်း။)

၁၈။ **ဇမ္ဗူချမ်းသာ** (၎င်းအတိုင်း။)

၁၉။ **ဇမ္ဗူကျက်သရေ** (၎င်းအတိုင်း။)

၂၀။ **ဇမ္ဗူသပြေ** (ဒူးတစ်ဖက် ထောင်၊ တဖက် လှဲ ထိုင်၍ သန်လျက်ကိုင်။)

၂၁။ **ဇမ္ဗူတန်ဆောင်** (၎င်းအတိုင်း။)

၂၂။ **ဇမ္ဗူတမွတ်** (၎င်းအတိုင်း။)

၂၃။ **ဇမ္ဗူရန်အောင်** (၎င်းအတိုင်း။)

၂၄။ **ရွှေသက်စိုး** (မတ်ရပ်ထ၊ သံလျက် ကိုင်။)

၂၅။ **ရွှေပြည်သခင်** (ဇင်းအတိုင်း။)

၂၆။ **ရွှေညီသခင်** (ဇင်းအတိုင်း။)

၂၇။ **ရွှေစကား** (ဇင်းအတိုင်း။)

၂၈။ **ခယားပင်စောင့်နတ်** (လက်တွင် ခယားပွင့် ပန်းဖြင့် ရှိခိုးနေဟန်။)

၂၉။ **မန်ကျည်းပင်စောင့်နတ်** (မတ်ရပ်ထ၊ သံလျှက်ကိုင်။)

၃၀။ **ဆင်ဖြူရှင်နတ်** (ဆင်ဖြူတော် စီးဟန်။)

၃၁။ **မြင်းဖြူရှင်နတ်** (မြင်းဖြူတော် စီးဟန်။)

၃၂။ **ဆွယ်သခင်** (မတ်ရပ်ထ၊ သံလျှက်ကိုင်။)

၃၃။ **ငနွယ်သခင်** (ဇင်းအတိုင်း။)

၃၄။ **ဖက်ပသခင်** (ဇင်းအတိုင်း။)

၃၅။ **ဘုံမသခင်** (ဇင်းအတိုင်း။)

၃၆။ **ထုံသင်းကြီး** (ဇင်းအတိုင်း။)

၃၇။ **ပွဲစားကြီး** (ဇင်းအတိုင်း။)

ဤစာရင်းမှာ ပုဂံ ရွှေစည်းခုံဘုရား တံတိုင်းအတွင်း၌ တည်ရှိသော စာရင်း ဖြစ်၍ "မန္တလေး ရွှေမြို့တော်တည် စာတမ်း" လာစာရင်းနှင့် အနည်းငယ်ကွာခြားနေသည်။ မန္တလေး ရွှေမြို့တော်တည် စာတမ်းမှာ သက္ကရာဇ် ၁၂၁၈ ခု၊ တပို့တွဲ လဆန်း ၈ ရက် တနင်္ဂနွေနေ့ မန္တလေး ရတနာပုံ





ပဌမမြို့တည် နန်းတည် အခါတော်၊ တောခုတ် အခါတော်မှ စ၍ ပန္နက်စိုက်ထူ အခါတော်၊ မြေသနစ် အခါတော်၊ တိုင်ထူ အခါတော်၊ အုတ်မြစ်စီခင်း အခါတော်၊ နန်းသိမ်း အခါတော်တို့၌ တင်ကြားပသ ပူဇော်ရန် ဒီပဲယင်းဆရာတော်၊ စံကျောင်းဆရာတော် စသော တံဆိပ်တော်ရ ဆရာတော်ကြီး ရှစ်ပါးနှင့် သတိုးမင်းကြီး မဟာ မင်းလှကျော်သူ၊ ပုခန်းမြို့စား ဝန်ကြီး သတိုးမင်းကြီး မဟာ မင်းလှစည်သူ စသော လူပညာရှိ တစ်ဆယ့်သုံးဦးတို့ စီမံထားသော စာတမ်းဖြစ်သည်။

ယင်း မန္တလေး ရွှေမြို့တော်တည် စာတမ်း၌ လာရှိသော အတွင်း ၃၇ မင်း စာရင်းမှာ အောက်ပါအတိုင်း ဖြစ်သည်။

| | |
|---|---|
| ၁။ သကြား | ၂။ ဓတရဋ္ဌ |
| ၃။ ဝိရုဠှက | ၄။ ဝိရူပက္ခ |
| ၅။ ကုဝေရ | ၆။ ဇမ္ဗူဒီပ |
| ၇။ ဇမ္ဗူတံဆိပ် | ၈။ ဇမ္ဗူချမ်းသာ |
| ၉။ ဇမ္ဗူကျက်သရေ | ၁၀။ ဇမ္ဗူသပြေ |
| ၁၁။ ဇမ္ဗူတန်ဆောင် | ၁၂။ ဇမ္ဗူတမွတ် |
| ၁၃။ ဇမ္ဗူရန်အောင် | ၁၄။ ရွှေသက်စိုး |
| ၁၅။ ဗျာသဂီ | ၁၆။ မဟောသရ |
| ၁၇။ ရွှေပြည်သခင် | ၁၈။ ရွှေညီသခင် |

| | |
|---|---|
| ၁၉။ ရွှေစကား | ၂၀။ ပွဲစားကြီး |
| ၂၁။ ခရားပင်စောင့် | ၂၂။ အင်ကြင်းပင်စောင့် |
| ၂၃။ ယင်နှင် | ၂၄။ အာဠဝက |
| ၂၅။ ကြေးစန္ဒီ | ၂၆။ ကြော့စန္ဒီ |
| ၂၇။ ဆင်ဖြူရှင် | ၂၈။ ငဆွယ်သင် |
| ၂၉။ ဖက်ပသင် | ၃၀။ မြင်းဖြူရှင် |
| ၃၁။ မာရ်နတ် | ၃၂။ မန်ကျည်းပင်စောင့် |
| ၃၃။ သူရဿတီ | ၃၄။ ငနွယ်သင် |
| ၃၅။ ထုံသင်းကြီး | ၃၆။ မဟာပိန္နဲ |
| ၃၇။ ရွှေမြို့ရှင် | |

အထက်ပါ ၃၇ မင်း နတ်စာရင်း၌ ပါရှိသော ဓတရဋ္ဌ၊ ဝိရူဠှက၊ ဝိရူပက္ခ၊ ကုဝေရ နတ်မင်းကြီးများမှာ စတုမဟာရာဇ် နတ်မင်းကြီးလေးပါး ဖြစ်သည်။ ဘုရားဟော အာဋ္ဌာနာဋိယ သုတ်ကြီး၌လည်း ပါရှိ၍ သတ္တတကျမ်း ဟိန္ဒီကျမ်းများ၌လည်း ထင်ရှားသော နတ်ကြီးများ ဖြစ်သည်။





(၄)

## အပြင် ၃၇ မင်း

**နတ်စာရင်း ၃မျိုး**

၃၇ မင်း နတ်စာရင်းများမှာ ညောင်ရမ်းခေတ် သို့မဟုတ် ညောင်ရမ်းခေတ် မတိုင်မီကပင် စာရင်းဟောင်းများ မူကွဲများ ရှိနေပြီ ဖြစ်သည်။ ယင်း စာရင်းဟောင်းများ မူကွဲများကို ညောင်ရမ်းခေတ် ငါးထပ်ဒါယကာ ရေချမင်း (၁၀၁၀- ၁၀၂၃) လက်ထက်တွင် သုတ်သင် ပြင်ဆင်၍ အပြင် ၃၇ မင်း စာရင်းသစ် တစ်ခု ရေးသား ပြုစုခဲ့ဘူးသည်ဟု မှတ်တမ်းရှိသည်။ မှတ်တမ်းသာ ရှိ၍ ထို သုတ်သင် ပြင်ဆင်သော စာရင်းကိုကား မတွေ့ရပေ။

သို့သော် ညောင်ရမ်းခေတ် ဝန်ကြီး ပဒေသရာဇာ ရေးသားခဲ့သော နတ်သံကိုကား တွေ့ရှိရသည်။ သို့ဖြစ်ရာ ယခုအခါ၌ -

(၁) ဝန်ကြီး ပဒေသရာဇာ နတ်သံအရ အပြင် ၃၇ မင်း စာရင်း၊

(၂) မြဝတီ ဝန်ကြီး ဦးစ၏ အပြင် ၃၇ မင်း စာရင်းနှင့်

(၃) မန္တလေး ရွှေမြို့တော်တည် စာတမ်းအရ ၃၇ မင်း စာရင်း

ဟူ၍ အပြင် ၃၇ မင်း စာရင်း ၃ မျိုး တွေ့ရှိနေရသည်။

ယင်း သုံးမျိုးအနက် "မန္တလေး ရွှေမြို့တော်တည် စာတမ်း" ကို ဒီပဲယင်းဆရာတော်၊ စံကျောင်းဆရာတော် စသော တံဆိပ်တော်ရ ဆရာတော်ကြီး ရှစ်ပါးနှင့် လူပညာရှိ တစ်ဆယ့်သုံးဦးတို့ စီမံရေးသားခဲ့ကြောင်း အထက်က ဖော်ပြခဲ့ပြီး ဖြစ်သည်။

## မြဝတီ ဝန်ကြီး၏ စာရင်း

မြဝတီ ဝန်ကြီး ဦးစ၏ အပြင် ၃၇ မင်း စာရင်းမှာ -

(၁) ဘိုးတော်မင်းတရား လက်ထက် သက္ကရာဇ် ၁၁၆၇ ခုနှစ်တွင် အိမ်ရှေ့ဘုရား အမိန့်တော်နှင့် ဆိုင်းဆရာ ငမြတ်သာ၊ တေရုပ် စသည်တို့ထံမှ မေးမြန်း မှတ်သားရသော တီးမှုတ်နည်း ဆင်ယင်နည်းများ၊

(၂) ဘကြီးတော်မင်းတရား လက်ထက် သက္ကရာဇ် ၁၁၈၂ ခုနှစ်တွင် နတ်ထိန်းကြီး ကဝိဒေဝကျော်၊ ရာဇဝင်ငနု၊ ရာဇဝင်တတ်တို့နှင့် တိုက်ဆိုင် မေးမြန်း၍ ရသော ၃၇ မင်း နတ် အမျိုးအမည် အတ္ထုပ္ပတ္တိ ဆင်ယင် တီးမှုတ်နည်း နတ်သံများ၊

ဟူသော စစ်တမ်း၊ မှတ်တမ်း နှစ်ရပ်တို့ကို ပေါင်းကာ စုစည်း မှတ်သားထားခဲ့ခြင်း ဖြစ်သည်။ ယင်း မှတ်သားချက်သည် ဘိုးတော်မင်းတရားနှင့် ဘကြီးတော်မင်းတရားတို့ လက်ထက်က နောက်ဆုံး အတည်ပြုခဲ့သော စာရင်းဖြစ်၍ ယခု တည်ရှိနေသော စာရင်းလည်း ဖြစ်သည်။

သို့ဖြစ်ရာ ယင်း မြဝတီ ဝန်ကြီး၏ စာရင်းအရ အပြင် ၃၇ မင်း စာရင်းမှာ အောက်ပါအတိုင်း ဖြစ်သည်။





### (၁) သိကြား

စတုမဟာရာဇ် နတ်ပြည် နှင့် တာဝတိံသာ နတ်ပြည်ကို အစိုးရသော သိကြားမင်း ဖြစ်သည်။ ယင်းသိကြားမင်းသည် သောတာပန် ဖြစ်သည်ဟု ဗုဒ္ဓ ပိဋကတ်စာပေများ၌ ဖော်ပြထားသည်။

**(အောက်ခံ ဆင်ရုပ်၊ ဦးခေါင်း သုံးလုံးခံ၊ ၎င်းအပေါ်က ပဒုမ္မာကြာပွင့် ဆင့်ထား၍ ယင်း ကြာပွင့်အပေါ် မတ်ရပ်ထလျက် ခရုသင်း လက်ဝဲဘက်က သားမြီးယပ် ကိုင်၍ သိကြား အဝတ်တန်ဆာ အစုံဖြင့် ထုလုပ်ထားသည်။)**

### (၂) မဟာဂီရိနတ်

တကောင်းပြည်၌ ပန်းဘဲ ဦးတင့်တော်၏ သား မောင်တင့်တယ်သည် ဆင်ပြောင်စွယ်ကိုပင် ချိုးပစ်နိုင်လောက်အောင် အားအင်ဗလ ကြီးမားလှသည်။ ထို့ကြောင့် တကောင်းမင်းကြီး (သာသနာ ၈၈၈- ၉၃၁) က သူ၏ မင်းစည်းစိမ်ကို လုလိမ့်မည်ဟု စိုးရိမ်သဖြင့် ကွပ်မျက်ပစ်ရန် ဖမ်းဆီးရာ မောင်တင့်တယ် ထွက်ပြေး တိမ်းရှောင်နေရသည်။

တကောင်းမင်းကြီးသည် မောင်တင့်တယ် ရန်မူမည်ကို ကြောက်ရွံ့လှသောကြောင့် မောင်တင့်တယ်၏ နှမအကြီး စောမယ်ယာကို မိဖုရားမြှောက်ပြီးနောက် အတန်ကြာသော် မိဖုရားကြီးအား - "သင်၏ အကိုသည် အားခွန်ဗလနှင့် ပြည့်စုံသူဖြစ်၍ မြို့ကွပ် ခန့်တော်မူမည်၊ အလျင်အမြန် ခေါ်စေ" ဟု မင်းကြီးက မိန့်တော်မူရာ ယုံကြည်သည်နှင့် ခေါ်ယူလေသည်။

မောင်တင့်တယ်ကလည်း "ငါ့နှမကို မိဖုရား မြှောက်လေပြီ ဖြစ်သောကြောင့် ငါ့ကိုလည်း အမှုထမ်းစေလို၍ ခေါ်သည်" ဟု ရိုးသားစွာ ထင်မှတ်ကာ လိုက်လာသည်။ ဤတွင် မင်းကြီးသည်

မောင်တင့်တယ်အား ဥပါယ်တမည်ဖြင့် ဖမ်းဆီးစေကာ ဓား၊ လှံ လက်နက်တို့ဖြင့် ထိုးခုတ်သတ်သော်လည်း မသေသောကြောင့် နောက်ဆုံး စကားပင်တွင် ချည်နှောင်ပြီး ဖိုကျည်ထိုး သတ်သည်တွင်မှ သေဆုံးကာ နတ်ဖြစ်သည်။

**(ဆင်ဖြူခုံတွင် ဘီလူးဆင့်သည်။ ၎င်းအပေါ်တွင် မတ်ရပ်ထလျက် မင်းသားတို့ အဆောင်အယောင် ဖောင်း၊ နားဒောင်း၊ စလွယ်နှင့် ဝဲလက်က ယပ်၊ ယာလက်က ဓား ကိုင်သည်။ ပုဂံ ရွှေစည်းခုံဘုရားတွင် ဤပုံအတိုင်း ရှိသည်။)**

## (၃) နှမတော်နတ်

မောင်တင့်တယ်၏ နှမအကြီး စောမယ်ယာသည် တကောင်းမင်းကြီးက မောင်တင့်တယ်ကို ဖိုကျည်ထိုး သတ်သောအခါ "ငါ့ကြောင့်သာ ငါ့အကို သေရလေခြင်း" ဟု ယူကျုံးမရဖြစ်ပြီး မီးပုံတွင်းသို့ ခုန်ဆင်းလေသည်။ သို့သော် အစောင့်အကြပ်များက လိုက်၍ ဆွဲငင်သောကြောင့် ခေါင်းကိုသာ ရလိုက်၍ ကိုယ်ကား မီးလောင်သေဆုံးကာ နတ်ဖြစ်သည်။

**(ဆင်နက်မ အရုပ်ခုံတွင် ဘီလူးရုပ် ဆင့်သည်။ ၎င်းအပေါ်တွင် မတ်ရပ်ထလျက် ယာလက်၏ လက်မနှင့် လက်ညှိုးက ကြစုသီးကိုင်၍ ရင်ကို ပိုက်နေဟန်၊ ဝဲလက်က ကိုယ်ကို မြှောင်လျက် ချထားဟန် ထုလုပ်သည်။)**

## (၄) ရွှေနဘေ

ရွှေနဘေနှင့် ပတ်သက်၍ အတ္တုပ္ပတ္တိ သမိုင်း ၃ မျိုး တွေ့ရှိရရာ ၎င်းတို့မှာ အောက်ပါအတိုင်း ဖြစ်သည်။

(၁) မင်းတုံးမြို့သူ ဖြစ်သည်။ နဂါးလုလင်နှင့် ညားသည်။ လင်ပစ်သွား၍ စိတ္တဇနှင့် သေဆုံးပြီး နတ်ဖြစ်သွားသည်။

(၂) မင်းတုံးမြို့သူ ဖြစ်သည်။ တောလုလင် တစ်ယောက်နှင့် ညားသည်။ လင်ပစ်သွား၍ စိတ္တဇနှင့် သေဆုံးပြီး နတ်ဖြစ်သည်။

(၃) နဂါးမျိုး ဖြစ်သည်။ ပန်းဘဲ မောင်တင့်တယ် ရာဇဝတ်ဘေးကြောင့် ပြေးလွှားနေရစဉ် အတွင်း အကြောင်းပါကြသည်။ မောင်တင့်တယ် အသတ်ခံရပြီးနောက် ဉနစ်လုံး ဥပြီး နလုံးကြေကွဲနာနှင့် သေဆုံးကာ နတ်ဖြစ်သည်။

ယင်း အတ္တုပ္ပတ္တိ သမိုင်း သုံးမျိုးအနက် "မောင်တင့်တယ်၏ ဇနီး ရွှေနဘေ နဂါးမ" ဟူသော ဝါဒကိုသာ ယူဆသူ များကြသည်။

ရွှေနဘေနတ်နှင့် အမျိုးတော်စပ်သော ဒေါက်တာထင်အောင်ကလည်း ရွှေနဘေသည် နဂါးမင်း၏ သမီး ဖြစ်သည်ဟု သူ၏ **Folk Elements in Burmese Buddhism** စာအုပ်၌ ရေးသား ဖော်ပြထားသည်။

**(ကြာခုံပေါ်တွင် မတ်ရပ်ထလျက် ဦးခေါင်းတွင် နဂါးလည်ပေါ်၊ စီးပုံဆောင်း၊ ဆူးနားဒောင်းပန်၊ ယာလက်က ရင်ကို ပိုက်၊ ဝဲလက်က ကိုယ်မှာ မြှောင်ချထားဟန် ထုလုပ်သည်။)**

## (၅) သုံးပန်လှ

သုံးပန်လှ၏ အတ္ထုပ္ပတ္တိ သမိုင်း နှစ်မျိုး တွေ့ရ၍ ဤ နှစ်မျိုးလုံး ဖော်ပြလိုက်ရပေသည်။

(၁) ဟံသာဝတီပြည် ကန်စွမ်းနိမ့်ရွာသူ (မွန်ဘာသာ တတွန်းနွတ်= တံတားငယ်ရွာ) ဖြစ်သည်။ တစ်နေ့လျှင် သုံးကြိမ်သုံးဖန် လှသူ ဖြစ်သောကြောင့် သူ၏ မိဘများက သရေခေတ္တရာ ပြည် ဒွတ္တပေါင်မင်းကြီးအား ဆက်သသည်။ မင်းကြီး၏ မိဖုရား၊ မောင်းမ၊ မိသံများက မနာလိုကြသောကြောင့် သုံးပန်လှကို ကြိုဆိုသူအား တံစိုးလက်ဆောင် ပေးပြီးကာ "သုံးပန်လှသည် မျက်နှာသာ လှ၍ ကိုယ်လုံးကိုယ်ထည် အလွန် ကြီးမားလှသောကြောင့် မြို့တံခါး မဆန့်၍ မြို့တွင်းသို့ မသွင်းယူနိုင်သဖြင့် မြို့အပြင်မှာ ထားရကြောင်း" ဖြင့် မင်းကြီးအား လိမ်လည် တင်လျှောက်စေသည်။ မင်းကြီးကလည်း ယုံတော်မူ၍ မသိမ်းမယူ၊ လျစ်လျူပြုထားသောကြောင့် သုံးပန်လှမှာ စိတ်ညစ် သေဆုံးကာ နတ် ဖြစ်သည်။

(၂) မောင်တင့်တယ်၏ နမအငယ် ရှင်ထွေးလှ ခေါ် သုံးပန်လှသည် မောင်တင့်တယ်တို့ အမှုအခင်း ဖြစ်သောအခါ ထွက်ပြေးရာ ရခိုင်ပြည်သို့ ရောက်သည်။ ရခိုင်ဘုရင်က သမီးအမှတ်ပြု မွေးထားသည်။ နောက် ဥက္ကလာပမင်း သိမ်ထောရာမအား ဆက်၍ ဥက္ကလာပမင်း၏ မိဖုရား ဖြစ်လာသည်။ သမီး ရှင်နဲမိကို မွေးဖွားပြီးနောက် ဆွေမျိုးများကို တွေ့လို၍ တကောင်းမြို့သို့ ဆန်တက်လာရာ အင်းဝမြို့ အနောက် တပယ်ထောက်ရစ်ရွာသို့ အရောက်တွင် ရုတ်တရက် ဖျား၍ သေပြီး နတ်ဖြစ်သည်။

**(ဆင်ရုပ်ခံ ဘီလူးရုပ်ခုံတွင် မတ်ရပ်ထ၊ ဆံကျစ်မြိတ်ရစ်ထုံး၊ ယာလက်က ရင်ကိုမ၊ ဝဲလက်က ကိုယ်မှာ မြှောက်ချထားဟန် ထုလုပ်သည်။)**



## (၆) မနဲမိ

ရှင်ထွေးလှ ခေါ် သုံးပန်လှ သေဆုံးသောအခါ၌ သူ၏ သမီး မနဲမိ ခေါ် ရှင်နဲမိ ခေါ် မနဲလေးမှာ ၂ နှစ်သမီးအရွယ် ကျန်ရစ်ခဲ့သည်။ ယင်း မနဲမိသည်လည်း ၂ နှစ်သမီးအရွယ် တပယ်ထောက်ရစ် ရွာမှာပင် မယ်တော်ကို လွမ်းဆွတ် သေဆုံးပြီး နတ်ဖြစ်သည်။

**(ကြာခံ ပလ္လင်ပေါ်တွင် မတ်တပ်ထ၊ ထမီခါးချပ် ဝတ်ခါ လက်ကောက် ပုတီးစည်းပုံနှင့် လက်နှစ်ဖက်ကို လွှဲချဟန် ကလေးရုပ် ထုလုပ်သည်။)**

## (၇) တောင်မကြီး = ရှင်ညို

## (၈) မြောက်မင်း = ရှင်ဖြူ

မောင်တင့်တယ်နှင့် ရွှေနဘေတို့၏ သား ၂ ယောက် ဖြစ်သည်။ သရေခေတ္တရာပြည် ဒွတ္တပေါင်မင်းကြီးထံ ခစားနေရာတွင် မင်းကြီးက ၎င်းတို့ညီအကို၏ အစွမ်းသတ္တိကို သိရှိသဖြင့် ထီးနန်းကို လုပ်ကြံလိမ့်မည်ဟု စိုးရိမ်လာသည်။ ထို့ကြောင့် ဥပါယ်တမည်ဖြင့် ၎င်းတို့ညီအစ်ကို နှစ်ယောက်ကို လက်ဝှေ့လက်ပန်း ထိုးခိုင်းစေရာ နှလုံး ရင်ကွဲနာကျ၍ နှစ်ယောက်လုံး သေဆုံးပြီး နတ်ဖြစ်ကြသည်။

**(ကြာခုံခံ၊ နတ်ရုပ် နှစ်ရုပ်လုံး မတ်ရပ်ထ၊ နှစ်ရုပ်လုံး လက်ဝဲ လက်ျာ သုံးဖက်စီ, ပေါင်း လက်ခြောက်ဖက်စီ ရှိသည်။ အထက် ဝဲ, ယာ လက်နှစ်ဖက်က လက်အုပ်ချီ၍ ရင်မှာ ကပ်ထားသည်။ ကျန် လက်ဝဲလက် နှစ်ဖက်က တုတ်နှင့် သိုင်း၊ လက်ျာလက် နှစ်ဖက်က ဓားနှင့် လှံ ကိုင်သည်။ ခေါင်းတွင် မောက်တို ကိုယ်စီဆောင်း၍ စစ်ဝတ်တန်ဆာ အစုံ ဝတ်ထားသည့်ပုံ ထုလုပ်သည်။)**

## (၉) ထီးဖြူဆောင်းနတ်

ပုဂံ အနော်ရထာမင်း၏ ခမည်းတော် ကွမ်းဆော်ကြောင်းဖြူမင်း (၃၂၆- ၃၄၈) ဖြစ်သည်။ ၎င်းသည် မင်းဖြစ်လာသောအခါ တောင်သူကြီးမင်း၏ မိဖုရားများ ဖြစ်ကြသော (၁) တောင်ပြင်သည်၊ (၂) အလယ်ပြင်သည်၊ (၃) မြောက်ပြင်သည်တို့ သုံးဦးလုံးကို ဆက်လက်၍ မိဖုရားမြှောက်သည်။ တောင်ပြင်သည်မှ ပါသော သားတော် ကျည်စိုးမင်းနှင့် စုက္ကတေး ညီနောင် နှစ်ပါး အရွယ်ရောက်ရှိလာသောအခါ ကွမ်းဆော်ကြောင်းဖြူမင်းကို ဖမ်းဆီး၍ ရဟန်း ပြုလုပ်စေရာ ရဟန်းဘဝ နှင့်ပင် အနိစ္စရောက်၍ နတ်ဖြစ်သည်။

ထိုအချိန်က ပုဂံပြည်၌ အရည်းကြီးသာသနာ ထွန်းကားချိန်ဖြစ်၍ ကွမ်းဆော်မင်းသည် ရဟန်းပြုသော်လည်း အရည်းကြီးဂိုဏ်းဝင် ရဟန်းမျိုးပင် ဖြစ်ရပေမည်၊ ထို့ကြောင့်လည်း ယင်း နတ်ရုပ်မှာ ဒေါက်ချာဆောင်းလျက် ရှိသည်ကို တွေ့ရသည်။

**(ပလ္လင်ခုံပြန့်ပေါ်တွင် တင်ပြင်ခွေလျက် သင်္ကန်း ဒုကုဋ်တင်ဟန်နှင့် မိုးကြိုးသွားပုံ ဒေါက်ချာ ဆောင်းထားသည်။ ယာလက်က ယပ်ကိုင်၍ ဝဲလက်က ဒူးပေါ် တင်ထားဟန် ထုလုပ်သည်။)**

## (၁၀) ထီးဖြူဆောင်း မယ်တော်

ကွမ်းဆော်ကြောင်းဖြူမင်း၏ မယ်တော်သည် နာမကျန်းဖြစ်၍ အနိစ္စရောက်ပြီး နတ်ဖြစ်သည်။

**(ကြာခုံပေါ်တွင် ကြုံ့ကြုံ့ထိုင်၍ ယာလက်က ဝမ်းကိုပိုက်၍ ဝဲလက်က ပေါင်ပေါ် ထောက်ထားဟန်၊ ဆံထုံး၊ ဆံမြိတ်၊ ဆံထိုးနှင့် ထုလုပ်သည်။)**

## (၁၁) ပရိမ္မ မင်းခေါင်

ကွမ်းဆော်ကြောင်းဖြူမင်းကို နန်းချ၍ ရဟန်းပြုစေပြီး နန်းတက်သော ကျည်စိုးမင်း (၃၄၈- ၃၅၄) ဖြစ်သည်။ သမင်လိုက် ဝါသနာပါ၍ ဗန့်ကျည်ဆယ်ကိုက်သို့ သွားရောက်ကာ သမင်ပစ်မည်ဟု လေးရွယ်နေစဉ် မုဆိုးတစ်ဦးက ထိုသမင်ကို ပစ်လိုက်ရာတွင် ကျည်စိုးမင်းကို မြားမှန် အနိစ္စ ရောက်ပြီး နတ်ဖြစ်သည်။

**(အောက်ခံ ပလ္လင်ပေါ်တွင် တင်ပြင်ခွေ၍ ဗောင်းသရဖူ ဆောင်းလျက် ယာလက်က ဒူးလေး ထမ်းဟန်၊ ဝဲလက်က လက်ဝဲဒူးစွန်းကို ထောက်ထားဟန် ထုလုပ်သည်။)**

## (၁၂) ရွှေဖျဉ်းကြီး

## (၁၃) ရွှေဖျဉ်းငယ်

ပုဂံပြည် အနော်ရထာမင်း (၄၀၆- ၄၃၉) လက်ထက် ပန်းတော်ဆက် ကုလား မောင်ဗျတ္တနှင့် ပုပ္ပားမှ ပန်းစားဘီလူးမ မယ်ဝဏ္ဏတို့၏ သား ၂ ယောက် ဖြစ်သည်။ အနော်ရထာမင်းကြီး တရုပ်ပြည်က အပြန် မန္တလေး တောင်ပြုံးအရပ်၌ ဆုတောင်းပြည့်ဘုရား တည်ရာတွင် အုတ် ၂ ချပ် လစ်လပ်သည့်အတွက် အနော်ရထာဘုရင်က ကွပ်မျက်၍ နတ်ဖြစ်သည်။

**(ရွှေဖျဉ်းကြီးနတ်မှာ အောက်ခံ ဖွန်းရိုးပလ္လင်ပြန့်ပေါ်တွင် လကျ်ာ ဒူးထောင်၊ လက်ဝဲ ဒူးလှဲ၊ လကျ်ာလက်က ဓားထမ်း၊ လက်ဝဲလက်က ပေါင်ပေါ် ထောက်၊ ဗောင်း၊ နားဒောင်း၊ လက်ကောက် တန်ဆာ ဆင်ထားပုံ ထုလုပ်သည်။ ရွှေဖျဉ်းငယ်နတ်မှာ အထက်ပါ ပုံအတိုင်း ဖြစ်သော်လည်း အနည်းငယ် ငယ်၍ ထုလုပ်သည်။)**

**(၁၄) မန္တလေး ဘိုးတော်**

ပုဏ္ဏား သား ဖြစ်သည်။ အနော်ရထာမင်း လက်ထက် အမတ်ဖြစ်သည်။ ရွှေဖျဉ်းညီနောင်တို့ ငယ်စဉ်က အနော်ရထာမင်းက ၎င်းထံ အပ်နှံသဖြင့် မွေးထားရရာ ၎င်းအား ရွှေဖျဉ်းညီနောင်က အဘိုးဟု ခေါ်သည်။ တရုပ်ပြည်မှ အနော်ရထာမင်း အပြန်တွင် မန္တလေးအရပ်၌ ဘိုးတော်တပ်လည်း ချရပ်နေရသည်။ ရွှေဖျဉ်းညီနောင် ရာဇဝတ်သင့်သောအခါ ၎င်း၏ အဆုံးအမ မကောင်း၍သာ ဖြစ်ရသည်ဟု ယူဆ၍ ၎င်းအား ဖမ်းဆီးရန် အလာတွင် ဘိုးတော်ကလည်း ကျောက်ဆင်ကို ချည်မန်းကွင်း စွပ်၍ ဆင်ဖြစ်လျှင် စီးနင်းထွက်ပြေးမည် ပြုနေစဉ်မှာပင် အဖမ်းခံရ၍ မန္တလေး အရပ်တွင် အသတ်ခံရပြီး နတ်ဖြစ်သည်။

**(အောက်ခံ ပလ္လင်ခုံတွင် မတ်ရပ်ထလျက် ဖောင်းဆောင်းပြီးလျှင် ဓားထမ်း၊ ယာလက်မနင့် လက်ညှိုး လက်ဆစ်ကို ပြဟန် ထုလုပ်ရသည်။)**

အသတ်ခံရကာနီးတွင် "ငါ့မှာ လက်တဆစ်မျှ အပြစ်မရှိ" ဟု လက်ဆစ်ထောင်ပြ မြည်တမ်း သွားသောကြောင့် လက်ညှိုး လက်ဆစ် ပြဟန် ထုလုပ်ထားခြင်း ဖြစ်သည်။ ရွှေဖျဉ်းညီနောင်တို့က ဘိုးတော်ဟု ခေါ်ပြီး မန္တလေးအရပ်၌ အသတ်ခံရသည်ကို အကြောင်းပြု၍ မန္တလေး ဘိုးတော်ဟု ခေါ်ဝေါ်ခြင်း ဖြစ်သည်။

**(၁၅) ရှင်ကွ**

မန္တလေး ဘိုးတော်၏ နှမဖြစ်သည်။ ရွှေဖျဉ်းညီနောင်တို့ ရာဇဝတ်သင့်ရာတွင် ကွယ်ဝှက် ထားမိသောကြောင့် မန္တလေး ဘိုးတော်နှင့် အတူ ကွပ်မျက်ခံရ၍ နတ်ဖြစ်သည်။

**(ကြာခံခုံ၊ ဆံတုံး လုလင်ကြည့်၊ ဆံတိုး ဆံကျစ် အစုံနှင့် လက်နစ်ဖက်ကို တွဲလွဲချကာ ကွ၍ သွားဟန် ထုလုပ်သည်။)**

**(၁၆) ညောင်ချမ်းအို**

သထုံ မနူဟာမင်း၏ အဆက်အနွယ် မင်းသားတစ်ပါး ဖြစ်သည်။ အနော်ရထာမင်းကြီး လက်ထက် ကုဋ္ဌ နူနာနှင့် ပုဂံတွင် အနိစ္စရောက်၍ နတ်ဖြစ်သည်။

**(အောက်ခံ လေးထောင့်ပေါ်တွင် မတ်ရပ်ထလျက် လက်ခြေများမှာ လူနူဟန်၊ ယာလက် တောင်ဝှေးကိုင်၊ ဝဲလက် အထက်မြှောက်ထားဟန်၊ သျှောင်ထုံးနှင့် ထုလုပ်သည်။)**

**(၁၇) မင်းစည်သူ**

ပုဂံခေတ် အလောင်းစည်သူမင်းကြီး (၄၇၄- ၅၂၉) ဖြစ်သည်။ အလောင်းစည်သူ မင်းကြီးသည် သားတော်အကြီး မင်းရှင်စောကို တိုင်းပြည်မှ နှင်ထုတ်၍ သားတော်အငယ် နရသူကို တိုင်းရေးပြည်မှု ကြည့်ရှု ကွပ်ကဲစေသည်။ မင်းကြီး ၈၁ နှစ်ရွယ် ပြင်းထန်စွာ နာမကျန်း ဖြစ်သောအခါ နရသူက မင်းကြီးအား ရွှေဂူဘုရား အတွင်းသို့ ယူဆောင်သွားစေပြီး ထီးနန်းကို သိမ်းယူလိုက်သည်။

သေငယ်ဇောနှင့် မျောနေရာမှ မင်းကြီး သတိရလာ၍ "ယခု ငါနေရသော နေရာသည် နန်းတော် မဟုတ်ပါကလား" ဟု မေးသော် မောင်းမငယ် တစ်ယောက်က "အရှင်မင်းကြီး၏ ကောင်းမှုတော် ရွှေဂူဘုရားအတွင်း ဖြစ်ပါကြောင်း၊ သားတော် နရသူ အမိန့်ဖြင့် ဆောင်ယူလာရခြင်း

ဖြစ်ပါကြောင်း" လျှောက်ထားရာ များစွာ အမျက်ထွက်ကာ မင်းကြီး၏ တစ်ကိုယ်လုံး မီးကဲ့သို့ ပူလောင်လာသည်။

မင်းကြီး၏ ဝေဒနာ သက်သာလာကြောင်းကို နရသူ ကြားသိရသောအခါ အကြံအစည် မပြည့်စုံလျှင် အရှိုးနီးဖြစ်မည် စိုးသောကြောင့် မင်းကြီးရှိရာသို့ လာရောက်ခဲ့သည်။

မင်းကြီးသည် သူ၏ ကောင်းမှုဖြစ်သော စေတီတော်၊ ထီးတော် စသည့် ကုသိုလ်အရပ်ရပ်ကို တစိမ့်စိမ့် ကြည့်ရှုကာ ကြည်နူးငြိမ်သက်နေစဉ် နရသူက "ငါ၏ ခမည်းတော် အားခွန်ဗလနည်းလှပြီ ဖြစ်ရကား အသက်ရှင်တော့မည်လည်း မဟုတ်တော့ပေ၊ ယခုကဲ့သို့ ကောင်းသောအာရုံ ပြုနေခိုက်မှာ ဝိညာဉ်ချုပ်သွားပါက ငါ၌လည်း အပြစ်ရှိနိုင်မည် မဟုတ်" ဟု ယူဆကာ သလွန်တော်၌ ခင်းထားသော အဝတ်ကို ယူပြီးလျှင် မင်းကြီး၏ မျက်နှာကို ဖုံးအုပ် ဖိသတ်လိုက်ရာ ကံတော်ကုန်၍ နတ်ဖြစ်သည်။

**(အောက်ခံ ပလ္လင်၊ ယာဒူး ထောင်၊ ဝဲဒူး ချ၊ ယာဒူးပေါ်တွင် ယာလက်ရုံး တင်၍ လက်ညှိုးထိုးဟန်၊ ဝဲလက်က ဝဲဒူးစွန်းကို ထောက်ထားဟန်၊ ဖောင်း၊ နားဒေါင်း၊ စလွယ်၊ ရှေ့ဘယက်၊ နောက်ဘယက်နဲ့ ထုလုပ်သည်။)**

## (၁၈) မင်းသား ဒန်းမောင်ရှင်

အလောင်းစည်သူမင်းကြီး၏ သားတော် ပြည်နှင်ဒဏ် ခံရသူ မင်းရှင်စော၏ သား ဖြစ်သည်။ ၎င်းသည် သာမဏေ အဖြစ်နှင့် ဒန်းကစားရာတွင် ဒန်းပေါ်က ကျ၍ အနိစ္စရောက်ပြီး နတ်ဖြစ်သည်။

**(ပလ္လင် ခုံပြန့်ပေါ်တွင် တင်ပြင်ခွေ ထိုင်၍ ယာလက်က စောင်းကိုပိုက် တီး၍ ဝဲလက်က စောင်းကြိုးကို ထောက်ဟန်၊ ဖောင်း၊ စလွယ်နှင့် ထုလုပ်သည်။)**



## (၁၉) မင်းကျော်စွာ

ပုခန်း ဦးမင်းကျော် ဟုလည်း ခေါ်ကြသည်။ ယင်းနှင့် ပတ်သက်၍ အတ္ထုပ္ပတ္တိ သမိုင်း လေးမျိုးတွေ့ရာ ၎င်းတို့မှာ အောက်ပါအတိုင်း ဖြစ်သည်။

(၁) ပန်းတောင်းပြည် မင်းစည်သူနှင့် ကူနီဒေဝီ တို့၏ မွေးစားသား မြင်းစီးခေါင်း ဗိုလ်မှူးမင်းသား ဖြစ်သည်။ ပုခန်းမြို့ စားရသည်။ မင်းစည်သူနှင့် ကူနီဒေဝီတို့ကို လုပ်ကြံသတ်ဖြတ်၍ ထီးနန်းကို လုယူပြီး ခွန်ချို၊ ခွန်သာ ရှမ်းမင်းသား နှစ်ပါးကို သစ္စာရေ တိုက်၍ ခွန်ချို၊ ခွန်သာတို့ မွေးစားဖခင် အိမ်ရှေ့မင်း ကိုးမြို့ရှင်၏ ဦးခေါင်းကို အဖြတ်ခိုင်းကာ ငွေချိုတောင်တန်း စကားဝါပင်ရိပ်သာ စခန်းမှ စောင့်နေသည်။ ခွန်ချို၊ ခွန်သာတို့က ကိုးမြို့ရှင် ဦးခေါင်းကို ဖြတ်ယူလာပြီး ဆက်သစဉ် ၎င်းတို့ကို ဖမ်း၍ မီးလောင်တိုက်သွင်း သတ်သည်။ ခွန်ချို၊ ခွန်သာ အစိမ်းနတ် ဖြစ်ပြီး ၎င်းကိုလည်း စကားဝါပင် လှဲချ ဖိသတ်၍ နတ်ဖြစ်သည်။ အချို့ သမိုင်းများ၌ ကျားနှင့် တိုက်သတ်၍ နတ်ဖြစ်သည်ဟုလည်း ဆိုသေးသည်။

(၂) ပုဂံခေတ် သိန်းခွန်မင်း (၉၆- ၁၀၆) ၏ သားငယ် မင်းကျော်စွာ ဖြစ်သည်။ ပုခန်းမြို့ အနီး၌ မြောင်းတူးရာ ရေမလာသည်ကို ရိုးမယ်ဖွဲ့၍ အကိုဖြစ်သူ စည်သူက သတ်၍ သေသောကြောင့် နတ်ဖြစ်သည်။

(၃) ပုဂံခေတ် အလောင်းစည်သူမင်း (၄၇၄- ၅၂၉) လက်ထက် အမတ်တစ်ဦး၏ သား ကျော်စွာ ဖြစ်သည်။ ပုပ္ပါးအရပ်သူ အရက်သည်မ ဘို့မယ်နှင့် အကြောင်းပါ၍ ကြက်၊ အရက်၊ ပွဲများနှင့်သာ ပျော်ပါးနေပြီး ပုခန်းမြို့ အနီး၌ သေ၍ နတ်ဖြစ်သည်။

(၄) အင်းဝခေတ် မင်းခေါင် (၇၆၃- ၇၈၃) ၏ သား မင်းရဲကျော်စွာ (၇၇၈ ခန့်) ဖြစ်သည်။ မွန်တို့နှင့် တိုက်ခိုက်ရသော ဒလတိုက်ပွဲ၌ ကျဆုံးပြီး နတ်ဖြစ်သည်။ ပုခန်းမြို့ကို စားရ၍ ပုခန်းမှာ နတ်ဖြစ်သည်ဟု အဆိုရှိသည်။

ဤ အတ္ထုပ္ပတ္တိ သမိုင်း လေးမျိုးလုံးကို ကြည့်လျှင် လေးမျိုးလုံးမှာပင် လူ့ဘဝတုံးက မိန်းမ၊ အရက်၊ ကြက် လောင်းကစားပွဲ သဘင်များတွင် ဝါသနာကြီးသည်။ မြင်းစီးလည်း ကောင်းသည်။ ယင်းသို့ နာမည်ကြီးနတ် ဖြစ်၍ ကိုကြီးကျော်ဟု ခေါ်ဝေါ်လေ့ ရှိသည်။

**(မြင်းစီးလျက် ယာလက်က ကြိမ်ကိုင်၊ ဝဲလက်က မြင်းဇက်ကိုင်ဟန်၊ သျှောင်ထုံးနှင့် ထုလုပ်သည်။)**

## (၂၀) အောင်စွာမကြီး

ပုဂံခေတ် နရပတိစည်သူမင်း (၅၃၆- ၅၇၃) ၏ အမတ် စစ်သူကြီး ဗိုလ်အောင်စွာ ဖြစ်သည်။ ရာဇဝင်၌ ငအောင်စွာဟု ပါရှိသည်။ နရပတိစည်သူသည် သူ၏ ဇနီး ဝေဠုဝတီ၏ အရေးအခင်းကြောင့် မြင်းတော်ခံ ငပြည့်ကို ကွပ်မျက်ပြီးနောက် ဗိုလ်အောင်စွာကို ခေါ်၍ "ငါ့နောင်တော် မင်းယဉ်နရသိင်္ခကို လုပ်ကြံချေ၊ အရေးပြီးလျှင် ငါ့ မရီးတော် သုံးပါးတွင် သင်နှစ်သက်ရာ တစ်ပါးပါးနှင့် လက်ဆက်၍ သူကောင်းပြုမည်" ဟု ဆိုသောကြောင့် သွား၍ လုပ်ကြံရာ အောင်မြင်သည်။ သို့သော် အောင်မြင်သောအခါ ဂတိစကားအတိုင်း မတည်ဘဲ မပေးစား၍ ဗိုလ်အောင်စွာက "ထွီ" ဟု တံတွေးထွေးကာ မလေးမစား ပြုမိသည့်အတွက် ကွပ်မျက်ခံရ၍ နတ်ဖြစ်သည်။

**(မြင်းစီးလျက် ဝဲလက် မြင်းဇက်ကြိုးကို ကိုင်၊ ယာလက် ဓားထမ်း၊ ဗောင်းထုပ်နှင့် ထုလုပ်သည်။)**

## (၂၁) ရွှေစစ်သင်

ပုဂံခေတ် စောမွန်နစ်မင်း (၆၈၇- ၇၃၀) ၏ သား ဖြစ်သည်။ ရွှေစစ်သည် ဟုလည်း ခေါ်ကြသည်။ ခမည်းတော် စောမွန်နစ်မင်းက စစ်ချီခိုင်းစေရာ ချီတက်ခြင်း မပြုဘဲ ပေါ့လျော့စွာ ကြက်တိုက် ကစားနေသည်။ ထို့ကြောင့် ခမည်းတော်က အမျက်ထွက်၍ မြေကြီးကို တွင်းတူးကာ ခန္ဓာကိုယ်တစ်ပိုင်း မြှုပ်နှံ၍ မြေထိပ်ခတ် အကျဉ်းချထားရာမှ အနိစ္စရောက်၍ နတ်ဖြစ်သည်။

**(ဖွန်းရိုး ပလ္လင်ခံ၊ ယာဒူး ထောင်၊ ဝဲဒူး လှဲ၊ ယာလက်က ဓားထမ်းပြီး ဝဲလက်က ဒူးပေါ် အုပ်၍ ဗောင်း၊ နားဒောင်း စလွယ်၊ ရှေ့ဘယက်၊ နောက်ဘယက်နှင့် ထုလုပ်သည်။)**

## (၂၂) မယ်တော် ရွှေစကား

ပုဂံခေတ် စောမွန်နစ်မင်း၏ မိဖုရား ဖြစ်၍ အထက်ပါ ရွှေစစ်သင်၏ မယ်တော် ဖြစ်သည်။ သားတော် ရွှေစစ်သင် သေဆုံးသောကြောင့် လွမ်းဆွတ် ကြေကွဲနာကျကာ အနိစ္စရောက်၍ နတ်ဖြစ်သည်။

**(ကြာခုံ ခံ၊ ကြုံ့ကြုံ့ထိုင်၊ ယာလက်က ရင်ကို ပိုက်၊ ဝဲလက်က ပေါင်ပေါ် ထောက်ထားဟန် ထုလုပ်သည်။)**

(၂၃) ငါးစီးရှင်

ပင်းယခေတ် တစ်စီးရှင် သီဟသူ၏ သားတော် ကျော်စွာ ဖြစ်သည်။ သက္ကရာဇ် ၇၀၄ ခုနှစ်တွင် ပင်းယထီးနန်းကို သိမ်းပိုက်ပြီးနောက် ဆင်ဖြူ ငါးစီး ရသောကြောင့် ငါးစီးရှင် ကျော်စွာ (၇၀၃- ၇၁၂) ဟု တွင်သည်။ နန်းစံ ၈ နှစ် အရတွင် ဖျားနာ အနိစ္စရောက်၍ နတ်ဖြစ်သည်။

**(ဆင်ဖြူရုပ် ကိုယ်တစ်ခုထဲတွင် ဦးခေါင်း ငါးလုံး၊ တစ်လုံးမှာ ပေါက်ဆင်မျိုး၊ တစ်လုံးမှာ တယ်ဆင်မျိုး၊ တစ်လုံးမှာ တဲဆင်မျိုး ထုလုပ်၍ ဆင်ကျောက်ကုန်းပေါ်၌ ကြာပွင့် ခံသည်။ ကြာပွင့်ပေါ်၌ မှန်စီရွှေချ "က" တင်သည်။ ၎င်းအပေါ် ဇောင်း သရဖူ ဆင်၍ နတ်ရုပ် တင်သည်။ ကြာပွင့်အနား ထီးဖြူလေးစင်း စိုက်သည်။ ဆင်ဖြူအနားတွင် ရွှေမြူတာ လေးလုံး တည်ထား ထုလုပ်သည်။)**

(၂၄) မင်းတရားနတ်

အင်းဝ မင်းခေါင်၏ နောင်တော် ဖြစ်သော အင်းဝဘုရင် ဆင်ဖြူရှင် တရဖျားမင်း (၇၆၂-၇၆၃) ဖြစ်သည်။ ၎င်းသည် အောင်ပင်လယ် အရပ်၌ တောကစားနေစဉ် ဇော်ဂျီနှင့် တွေ့ရာတွင် ဇော်ဂျီက မန်းမှုတ်ပေးသောအခါ နတ်သမီး ပေါ်လာသည်။ ယင်း နတ်သမီးနှင့် တွေ့ကြုံ ပျော်ပါးပြီးနောက် နတ်သမီး ကွယ်ပျောက်သွားရာ ဆင်ဖြူရှင် တရဖျားမင်း စိတ်ဖောက်ပြန် ရူးသွပ်ရောဂါ စွဲကပ်နေစဉ် အထိန်းတော် ငနောက်ဆန်က လုပ်ကြံသောကြောင့် ကံကုန်ပြီး နတ်ဖြစ်သည်။

**(ဖွန်ရိုးခံ ပလ္လင်၊ တင်ပြင်ခွေ၊ မင်းတန်ဆာ အစုံဝတ်ဆင်၍ ယာလက်က ယပ်တောင်၊ ဝဲလက်က ဒူးအုပ် ထုလုပ်သည်။)**

(၂၅) မောင်ပိုးတူ

ပင်းယမြို့သား လဘက်ကုန်သည် ဖြစ်သည်။ မောင်ပိုးတူသည် အင်းဝဘုရင် ပဌမ မင်းခေါင် (၇၆၃- ၇၈၃) လက်ထက် နွားဝန်တင်၊ လှည်းဝန်တင်များနှင့် သုံးဆယ်- သီပေါ- မိုးမိတ် နယ်များသို့ ကူးသန်းသွားလာကာ အရောင်းအဝယ် လုပ်ကိုင်နေသည်။ တစ်နေ့တွင် ရှမ်းပြည်မှ အပြန် အုန်းကြော လက်ကောင်းရွာအနီး တောင်ခြေ၌ ကျားကိုက်ခံရ၍ အနိစ္စရောက်ပြီး နတ်ဖြစ်သည်။

**(ကျားရုပ်ပေါ်တွင် စီး၍ ယာလက်က ကြိမ်ကို ကိုင်၊ ဝဲလက်က ပေါင်ကို ထောက်၍ သျှောင်ထုံးနှင့် ထုလုပ်သည်။)**

(၂၆) အနောက် မိဖုရား

အင်းဝဘုရင် ပဌမ မင်းခေါင် (၇၆၃- ၇၈၃) ၏ အနောက်ဆောင် မိဖုရား ဖြစ်သည်။ ၎င်းသည် သိုင်ဘွား (ရှမ်းအခေါ် ဆေငံဖ) ၏ သမီးတော် ရှင်မိနောက် ဖြစ်၍ မြန်မာသူရဲကောင်း မင်းရဲကျော်စွာ၏ မယ်တော်လည်း ဖြစ်သည်။ အင်းဝမြို့အနောက် ဝါခင်းသို့ ကိုယ်လုပ်တော် မောင်းမများနှင့် အပျော်အပါး သွားရာတွင် မင်းကျော်စွာ နတ်မြင်းနှင့် လာသည်ကို တွေ့ရ၍ ထိတ်လန့်ပြီး အပြန် နန်းတော်သို့ ရောက်လျှင် မီးယပ်နာနှင့် ကံကုန်၍ အနိစ္စရောက်ပြီး နတ်ဖြစ်သည်။

**(ကြာခုံပေါ် ကြုံ့ကြုံ့ထိုင်၊ ဆံထုံး၊ ဆံမိတ်ကွင်း၊ ဆံထိုး၊ ဆံကျင်နှင့် သားငယ် ပိုက်ပွေ့ နို့တိုက်နေဟန် ထုလုပ်သည်။)**

## (၂၇) အောင်ပင်လယ် ဆင်ဖြူရှင်

အင်းဝဘုရင် ပဉ္စမ မင်းခေါင်၏ သားတော် သီဟသူမင်း (၇၈၃- ၇၈၇) ဖြစ်သည်။ အောင်ပင်လယ် အရပ်တွင် လယ်၊ ချောင်းလုပ်၍ မိန်းမတို့နှင့် ပျော်ပါးနေလေ့ ရှိရာ တစ်နေ့တွင် သူ၏ မိဖုရား ဘို့မယ်၏ ပယောဂဖြင့် အမေ့အလျော့ ရှိနေစဉ် အုန်းပေါင် စော်ဘွားက ဆင်နင့်တိုက်၍ ဆင်ဦး၌ပင် အနိစ္စရောက်ပြီး နတ်ဖြစ်သည်။

**(ဆင်ဖြူရုပ်ပေါ်တွင် ပလ္လင်တင်၍ ပလ္လင်ပေါ်တွင် တင်ပြင်ခွေ ထိုင်ကာ ယာလက်က ယပ်ကိုင်၍၊ ဝဲလက်က ဒူးတင်၊ ဖောင်း၊ နားဍောင်း၊ သရဖူ အစုံနှင့် ရှေ့မှ ဆင်ဦးစီးက ချွန်းကိုင်၍ ဝပ်နေဟန်၊ နောက်ပဲ့စီးက ဓားထမ်းနေဟန် ထုလုပ်သည်။)**

## (၂၈) ရှင်ကုန်း

အောင်ပင်လယ် ဆင်ဖြူရှင်နတ် ဖြစ်သွားသော အင်းဝ သီဟသူမင်း၏ ကိုယ်လုပ်တော် ဖြစ်သည်။ အောင်ပင်လယ်တွင် သီဟသူမင်းနှင့် အုန်းဘောင် စော်ဘွားတို့ တိုက်ပွဲတွင် ပါသွားသည်။ အောင်ပင်လယ်မှ အပြန် အင်းဝ ရောက်လျှင် အနိစ္စရောက်၍ နတ်ဖြစ်သည်။

**(ကြာခုံပေါ်တွင် ဆံထိုး လုလင်ကြည့်၊ ဆံထုံး၊ ဆံကျင် အစုံနှင့် လက်နှစ်ဖက်တို့ တွဲလွဲချကာ ကုန်း၍ သွားဟန် ထုလုပ်သည်။)**

## (၂၉) ရွှေနော်ရထာ

အင်းဝဘုရင် ဒုတိယ မင်းခေါင် (၈၄၂- ၈၆၃) ၏ မြေး ရွှေနော်ရထာ ဖြစ်သည်။ ဘထွေးတော်သူ အင်းဝဘုရင် ရွှေနန်းကြော့ရှင် နရပတိ (၈၆၃- ၈၈၈) ကို ရွှေနော်ရထာ၏ ကျွန်ယုံ ငသောကြာက အမှတ်မဲ့ ဓားနှင့်ခုတ်ရာ ရွှေနန်းကြော့ရှင်ကို မခုတ်မိဘဲ ထီးဖြူကိုသာ ခုတ်မိသည်။ ဤတွင် အထိန်းတော်သား ရေနံ့သာစား ငရွှေကြိုင်က ငသောကြာကို ဖမ်းဆီး ဖက်ထား၍ ရွှေနန်းကြော့ရှင် ကိုယ်တိုင် ငသောကြာကို ဓားနှင့် ကွပ်မျက်သည်။ သူ၏ သခင်ဖြစ်သူ ရွှေနော်ရထာက အကြံပေး၍သာ ငသောကြာက လုပ်ကြံခြင်း ဖြစ်သည်ဟု ယူဆကာ ရွှေနော်ရထာကို ဖမ်းဆီးပြီး ရေမှာ ဖျောက်ရာ အနိစ္စရောက်၍ နတ်ဖြစ်သည်။

**(ဖွန်းရိုးခုံ ပလ္လင်ခံ၊ ယာဒူး ထောက်၊ ဝဲဒူး လှဲ၊ ယာလက်က ဗလီတံ ကိုင်၍ ဝဲလက်က ဗလီလုံး ကိုင်ဟန် ထုလုပ်သည်။)**

## (၃၀) မင်းရဲအောင်ဒင်

အင်းဝဘုရင် သာလွန်မင်းတရားကြီး (၉၉၀- ၁၀၁၀) နှင့် မိုးနဲစော်ဘွား သမီးတော် ခင်သက်နှင်းတို့မှ မြင်သော သမီးတော် ရွှေဆင်းတု မင်းသမီး၏ ခင်ပွန်း ဖြစ်သည်။ ဘိန်းဘင်း၊ အရက်ကြူး၍ အနိစ္စရောက်ပြီး နတ်ဖြစ်သည်။

**(ကြာခုံခံ၊ တင်ပြင်ခွေ၊ သျှောင်ထုံးနှင့်၊ စောင်းပိုက်နေဟန် ထုလုပ်သည်။)**

**(၃၁) မောင်မင်းဖြူ**

အင်းဝမင်း တစ်ပါး၏ သားတော် ဖြစ်သည်။ ငယ်စဉ်က အပေါင်းအသင်းများနှင့် အရက်သောက်စားမူးယစ် ကြူးသောကြောင့် သေဆုံးပြီး နတ်ဖြစ်သည်။

**(ကြာခုံခံ၊ တင်ပြင်ခွေ၊ ဖောင်းထုပ် ပေါင်း၍ ငြင်းမှုတ်နေဟန် ထုလုပ်သည်။)**

**(၃၂) ရှင်တော်နတ်**

ဤနတ်နှင့် ပတ်သက်၍ အတ္ထုပ္ပတ္တိ သမိုင်း နှစ်မျိုး တွေ့ရာ ယင်းတို့မှာ အောက်ပါအတိုင်း ဖြစ်သည်။

(၁) အင်းဝ၌ ရှင်သာမဏေ တစ်ပါး မြွေကိုက်ခံရ၍ ပျံလွန်ပြီး နတ်ဖြစ်သည်။

(၂) ပုဂံ၌ ငှက်ပစ်တောင် ကျောင်းကြီးမှ ရှင်သာမဏေ တစ်ပါး မြွေကိုက်ခံရ၍ ပျံလွန်ပြီး နတ်ဖြစ်သည်။

**(အောက်ခံ လေးထောင့်ပေါ်တွင် မတ်ရပ်ထ၊ ဦးထုပ် ဒေါက်ချာဆောင်း၊ သင်္ကန်းလောဘက်တင်၊ ယာလက်က ယပ်ထမ်း၊ ဝဲလက်က ပုတီးကိုင်ဟန် ထုလုပ်သည်။)**

**(၃၃) တပင်ရွှေထီး**

တောင်ငူဘုရင် တပင်ရွှေထီး (၈၉၂- ၉၁၂) ဖြစ်သည်။ ၎င်းသည် အရက်ချက်တတ်သူ ပေါ်တူဂီလူမျိုးနှင့် ပေါင်းဖက်မိ၍ အရက်သေစာ သောက်စားမူးယစ် ပျော်ပါးပြီး အိပ်ပျော်နေစဉ် သမိန်စောထွတ်၏ ညီအလတ် လက်ဝဲဓားမှူးက ခေါင်းဖြတ်၍ ကံကုန်ပြီး နတ်ဖြစ်သည်။

**(လေးထောင့်ခုံ ပလ္လင်ပေါ်တွင် တင်ပြင်ခွေ၊ ဖောင်း သရဖူဆောင်း၊ ယာလက်က ဓား၊ ဝဲလက်က ဒူးအုပ်ဟန် ထုလုပ်သည်။)**

**(၃၄) မြောက်ဖက်ရှင်မ**

တောင်ငူဘုရင် တပင်ရွှေထီး၏ အထိန်းတော် မင်းရဲသိင်္ခသူ၏ နောက်မယား မြောက်ဖက်ကဒူးရွာသူ ဖြစ်သည်။ မိဘရပ်ရွာသို့ ခေတ္တ အလည်သွားရာမှ အပြန်တွင် စစ်ကိုင်းမြို့ အနောက်မှာ သားဖွားနေသောကြောင့် တဲကြီးဆောက်၍ နေထိုင်ရစဉ် မီးယပ်နာဖြင့် အနိစ္စရောက်၍ နတ်ဖြစ်သည်။

**(ကြာခုံပေါ်တွင် ကြုံ့ကြုံ့ထိုင်၊ ယာလက်က ရင်ကို ပွေ့ပိုက်နေဟန်၊ ဝဲလက်က ဒူးစွန်းပေါ် ထောက်၍ ဆံထိုး၊ ဆံမြိတ်ကွင်း၊ ဆံထုံးနှင့် ထုလုပ်သည်။)**

**(၃၅) တောင်ငူရှင် မင်းခေါင်**

အထိန်းတော် မင်းရဲသိင်္ခသူနှင့် မြောက်ဖက်ရှင်မတို့၏ သားဖြစ်သည်။ တောင်ငူတွင် မင်းခေါင် အမည်ဖြင့် မင်းပြုသည်။ (၉၀၄- ၉၄၆) နာမကျန်း၍ အနိစ္စရောက်ပြီး နတ်ဖြစ်သည်။

**(ဖွန်းရိုးခံ ပလ္လင်ပေါ်တွင် တင်ပြင်ခွေ၊ ဖောင်း၊ နားဒောင်း၊ စလွယ် အစုံ၊ ယာလက်က ယပ်ကိုင်၊ ဝဲလက်က ဒူးအုပ်ဟန် ထုလုပ်သည်။)**

### (၃၆) သံတော်ခံ

တောင်ငူဘုရင် မင်းခေါင်၏ သံတော်ခံ ရဲဖျားဆိုသူ ဖြစ်သည်။ မြေတူးမြို့အနီး တောအရပ်သို့ ပန်းခူး ပန်းဆွတ် သွားရာတွင် ငှက်ဖျားရောဂါရ၍ အနိစ္စရောက်ပြီး နတ်ဖြစ်သည်။

တနည်း- တောင်ငူဘုရင် မင်းခေါင်က တစ်နေ့သော ညအခါ နန်းတော်အတွင်း မြတ်လေးပန်းချုံမှာ ပန်းအဆွတ် စေခိုင်းသည်တွင် မြွေခဲ သေ၍ နတ်ဖြစ်သည်။

**(ကြာခုံပေါ်တွင် ထိုင်လျက် ယာလက်က ယပ်ကိုင်၍ ဝဲလက်က ဒူးမှာ အုပ်ပြီး ခေါင်းမှာ မြစ်ညွှန့် ဖောင်းနှင့် ထုလုပ်သည်။)**

### (၃၇) ယွန်းဘုရင်

ဇင်းမယ်ဘုရင် ဖြသံ ဖြစ်သည်။ သက္ကရာဇ် ၉၂၁ ခုတွင် ဟံသာဝတီ ဆင်ဖြူရှင် (ဘုရင့်နောင်) မင်းတရားကြီးသည် ဇင်းမယ်ကို လုပ်ကြံရာတွင် အောင်မြင်၍ ဇင်းမယ်ဘုရင် ဖြသံ (ယိုးဒယား ရာဇဝင်၌ မေကုသိ ဟု ဆိုသည်) ကို ဖမ်းဆီးယူဆောင်ခဲ့ပြီး ချီးမြှောက်ထားရာ သွေးဝမ်းရောဂါ ကပ်ရောက်၍ အနိစ္စရောက်ပြီး နတ်ဖြစ်သည်။





**(ပလ္လင်ခုံ၊ ယာဒူး ထောင်၊ ဝဲဒူး လှဲ၊ ယာလက်က ကြံ့ဆစ်သိုင်း ဒုတ်ထမ်း၊ ဝဲလက်က ပေါင်ကို ထောက်၊ ခေါင်းမှာ မြစ်ညွှန့်ဖောင်း၊ နားဒောင်းနှင့် ထုလုပ်သည်။)**

### မြဝတီ ဝန်ကြီး ဦးစ၏ အပြင် ၃၇ မင်း စာရင်းချုပ်

ဤ မြဝတီ ဝန်ကြီး စာရင်းအရ အပြင် ၃၇ မင်းမှာ ပုဂံခေတ်က ၃၇ မင်းလုံး အပြည့်အစုံ မရှိသေးပေ၊ ပင်းယခေတ်၊ အင်းဝခေတ်၊ တောင်ငူခေတ်တို့ ကျမှသာ ထပ်ကာ, ထပ်ကာ ဖြည့်ခဲ့ကြသဖြင့် ၃၇ မင်းလုံး ပြည့်ခဲ့ကြသည်။

ယင်း ၃၇ မင်း စာရင်းအရ ပုဂံခေတ်ကို -

(က) အနော်ရထာ အလျင် ပုဂံခေတ်နှင့်

(ခ) အနော်ရထာ နောက် ပုဂံခေတ်

ဟု နှစ်ပိုင်း ခွဲခြားရမည်။

ယင်းသို့ ခွဲခြားလိုက်သော အခါ၌ အနော်ရထာ၏ လက်ထက်တွင် (၁) သိကြားမှ စ၍ (၁၆) ညောင်ချမ်းအို အထိ ၁၆ ပါးသာ ရှိသေး၍ (၁၇) စည်သူမှ (၂၂) မယ်တော် ရွှေစကား အထိ ၆ ပါးမှာ အနော်ရထာနောက်မှ ပေါ်ပေါက်လာသော နတ်များ ဖြစ်ကြောင်း သိရှိနိုင်ပေသည်။ (၂၃) ငါးစီးရှင်မှာ ပင်းယခေတ်က ဖြစ်သည်။ (၂၄) မင်းတရားနတ်မှ (၃၂) ရှင်တော်နတ် အထိ ၉ ပါးမှာ အင်းဝ ခေတ်က ဖြစ်သည်။ (၃၃) တပင်ရွှေထီးမှ (၃၇) ယွန်းဘုရင်နတ် အထိ ၅ ပါးမှာ တောင်ငူခေတ်က ဖြစ်သည်။

သို့ဖြစ်ရာ ယင်း အပြင် ၃၇ မင်း နတ်များကို ခေတ်အားဖြင့် လည်းကောင်း၊ ကျား, မ အားဖြင့် လည်းကောင်း၊ ရှင်, လူ အားဖြင့် လည်းကောင်း၊ လူမျိုးအားဖြင့် လည်းကောင်း၊ အရပ်ဒေသအားဖြင့် လည်းကောင်း အမျိုးအစားအားဖြင့် လည်းကောင်း၊ သေဆုံးကြပုံ အခြင်းအရာ အားဖြင့် လည်းကောင်း အောက်ပါအတိုင်း ခွဲခြားရမည် ဖြစ်သည်။

ခေတ်

| | |
|---|---|
| ပုဂံခေတ် အလျှင်နှင့် ပုဂံခေတ် | ၂၂ |
| ပင်းယခေတ် | ၀၁ |
| အင်းဝခေတ် | ၀၉ |
| တောင်ငူခေတ် | ၀၅ |
| **ပေါင်း** | **၃၇** |

ကျား၊ မ

| | |
|---|---|
| ယောကျ်ား | ၂၇ |
| မိန်းမ | ၁၀ |
| **ပေါင်း** | **၃၇** |

ရှင်၊ လူ၊ နတ်

| | |
|---|---|
| ရှင် | ၀၃ |
| လူ | ၃၃ |
| နတ် | ၀၁ |
| **ပေါင်း** | **၃၇** |

လူမျိုး

| | |
|---|---|
| မြန်မာ | ၂၈ |
| မွန်နွယ် | ၀၂ |
| ရှမ်း | ၀၁ |
| ကုလားနွယ် | ၀၃ |
| ယွန်း | ၀၁ |
| ပုဏ္ဏား | ၀၂ |
| **ပေါင်း** | **၃၇** |

အရပ်ဒေသ

| | |
|---|---|
| ပုဂံ | ၁၂ |
| အင်းဝ | ၀၈ |

---

၁။ဒေါက်တာထင်အောင်က သူ၏ Folk Elements in Burmese Buddhism စာအုပ်တွင် ရွှေနဘေ,သုံးပန်လှ, မနဲမိ စသော နတ်များသည် ပျူနတ်များဖြစ်၍ သရေခေတ္တရာ မင်းဆက်မှ ပုဂံတိုင်အောင် ကိုးကွယ်ခဲ့ကြသည်ဟု ဖော်ပြထားသည်။

| | |
|---|---|
| တကောင်း | ၀၃ |
| မင်းတုံး | ၀၃ |
| တောင်ငူ | ၀၃ |
| ဥက္ကလာပ | ၀၁ |
| သထုံနယ် | ၀၁ |
| ပင်းယ | ၀၁ |
| ပင်လယ် | ၀၁ |
| ဇင်းမယ် | ၀၁ |
| ပူတက် | ၀၁ |
| ကတူး | ၀၁ |
| အိန္ဒိယ (သိကြား) | ၀၁ |
| **ပေါင်း** | **၃၇** |

အမျိုးအစား

| | |
|---|---|
| ဘုရင်၊ မင်း၊ သိကြား | ၁၁ |
| မင်းသား မင်းနွယ် | ၀၆ |
| မိဖုရား | ၀၆ |
| အမတ်၊ အမှုထမ်း | ၀၈ |
| ကုန်သည်၊ ဆင်းရဲသား | ၀၆ |
| **ပေါင်း** | **၃၇** |

သေဆုံးကြပုံ အခြင်းအရာ

ကျား၊ မြွေ၊ မီး၊ စိတ္တဇ၊ ကွပ်မျက်ခံ စသော

အသေဆိုးနှင့် သေခဲ့ရသော နတ်များ ၂၃

| | |
|---|---|
| ဖျားနာရောဂါနှင့် သေခဲ့ရသော နတ်များ | ၁၁ |
| ဘိန်း၊ အရက်ကြောင့် သေခဲ့ရသော နတ်များ | ၀၂ |
| ကုဋ္ဌနူနာနှင့် သေခဲ့ရသောနတ်များ | ၀၁ |
| **ပေါင်း** | **၃၇** |

အထက်ပါ အပြင် ၃၇ မင်း စာရင်းကို ကြည့်လျှင် သိကြား၊ နတ်၊ ညောင်ချမ်းအိုနှင့် ယွန်းဘုရင်နတ် တို့မှ တစ်ပါး ကျန် နတ်အားလုံးသည် မြန်မာနိုင်ငံ အထက်ပိုင်းမှ နတ်များသာ ဖြစ်ကြောင်း တွေ့ရှိရပေမည်။ ထို့ပြင် ယင်း နတ်များမှာ ညောင်ရမ်းခေတ် သက္ကရာဇ် ၁၀၀၀ ခန့် မတိုင်မီက နတ်များသာ ပါဝင်နေသည်ကိုလည်း ဤ၌ သတိပြုဘို့လိုသည်။

**ဝန်ကြီး ပဒေသရာဇာ၏ အပြင် ၃၇ မင်း စာရင်း**

ဝန်ကြီး ပဒေသရာဇာ၏ နတ်သံအရ အပြင် ၃၇ မင်း စာရင်းမှာ အထက်ပါ မြဝတီ ဝန်ကြီး၏ အပြင် ၃၇ မင်း စာရင်းနှင့် ၁၈ ဦးသာ ထပ်တူကျ၍ ၁၉ ဦးမှာ မတူဘဲ ကွဲပြားနေသည်။

ထပ်တူကျသော ၁၈ ဦးမှာ အောက်ပါအတိုင်း ဖြစ်သည်။

| | |
|---|---|
| ၁။ သိကြား | ၂။ မဟာဂီရိ |
| ၃။ နှမတော် | ၄။ ရွှေနဘေ |
| ၅။ သုံးပန်လှ | ၆။ မနဲမိ |
| ၇။ ရွှေဖျဉ်းကြီး | ၈။ ရွှေဖျဉ်းငယ် |
| ၉။ မင်းစည်သူ | ၁၀။ ကျော်စွာ |
| ၁၁။ အောင်စွာမကြီး | ၁၂။ ငါးစီးရှင် |
| ၁၃။ မင်းတရားနတ် ဆင်ဖြူရှင် | ၁၄။ မောင်ပိုးတူ |
| ၁၅။ ရွှေနော်ရထာ | ၁၆။ တပင်ရွှေထီး |
| ၁၇။ မြောက်ဖက်ရှင်မ | ၁၈။ တောင်ငူ ရှင်မင်းခေါင် |

ဝန်ကြီး ပဒေသရာဇာ၏ စာရင်း၌သာ ပါရှိသည့် မတူသော အပြင် ၃၇ မင်း နတ် ၁၉ ဦးတို့မှာ အောက်ပါအတိုင်း ဖြစ်သည်။

**(၁) အနန္တပစ္စည်း**

**(၂) ရန္တပစ္စည်း**

ပုဂံခေတ် တရုပ်ပြေးမင်း (၆၁၇- ၆၄၈) လက်ထက် အမတ်ကြီး ရာဇသင်္ကြံ၏ သားများ ဖြစ်ကြသည်။ နာမည်ရင်းမှာ (၁) ပုဂံအုတ်လုကြီး၊ (၂) ညောင်ဦး အုတ်လုငယ်ဟု ခေါ်တွင်သည်။ အဖဖြစ်သူ ရာဇသင်္ကြံ ကွယ်လွန်သောအခါ အဖ၏ အမည်ကို လုကြရာ ဘုရင်က မည်သူ့ကိုမှ မပေးဘဲ အကြီးကို အနန္တပစ္စည်းဟူ၍ လည်းကောင်း၊ အငယ်ကို ရန္တပစ္စည်းဟူ၍ လည်းကောင်း

ဘွဲ့ပေးသည်။ သက္ကရာဇ် ၆၄၆ ခု တရုပ်နှင့် မြန်မာတို့ တိုက်ခိုက်ကြသော ငဆောင်ချမ်း တိုက်ပွဲတွင် ယင်း ညီနောင်တို့ စစ်ဗိုလ်ပြုလုပ်၍ တိုက်ခိုက်ရသည်။ ပြဒါးသေကို ငုံကာ ၁၅, ၁၆ တောင် မြင့်အောင် ခုန်၍ တိုက်ခိုက် ခုတ်သတ်ရာ ပမ်းအားကြီးမှ ပြဒါးသေ လွတ်ထွက်ကျ၍ မြားသင့်ကာ သေကျေ ပျက်စီးကြရသည်။

## (၃) မြင်စိုင်း ရွှေနန်းရှင်

ပုဂံ တရုပ်ပြေးမင်း၏ မြေး ရှင်မြတ်လှနှင့် ပုဂံ နန်းကျကျော်စွာ၏ သား သရက် မင်းရှင်စောတို့မှ မြင်စိုင်း ရွှေနန်းရှင် အပါအဝင် ၆ ယောက် ဖွားမြင်သည်။ ပင်းယ ဥဇနာ (၆၈၄- ၇၀၄) လက်ထက်တွင် မြင်စိုင်း ရွှေနန်းကို အုပ်စိုးရသည်။

## (၄) သီဟပတေ့

ပင်းယ ငါးစီးရှင် (၇၀၄- ၇၁၂) က သီဟပတေ့ အပါအဝင် မြို့စား ရှစ်ဦးတို့ကို နေ့တိုင်း ရွှေဖလားတွင် ဖက်ဝန်းအုပ်၍ လဘက်တည်လေ့ ရှိသည်။ တစ်ခါ၌ကား မေ့လျော့၍ သီဟပတေ့၏ ခွက်ကို ဖက်ဝန်း မအုပ်မိပေ၊ ၃ ရက် အရှိတွင် သီဟပတေ့ စိတ်နာ၍ ခြားနားမည်ရှိရာ ဘုရင်က "မေ့၍ မအုပ်မိကြောင်း" ဖြင့် ကျေရာကျေကြောင်း အမိန့်ရှိပြီး အုန်းသောင် မြင်းနက်ကျော် တစ်စီး လက်ဖွဲ့တော်မူသည်။

## (၅) ရမည်းသင်းစား သီလဝ

အင်းဝ မင်းကြီးစွာစော်ကဲ (၇၂၉- ၇၆၂) ၏ နမ ဖြစ်သူ စောပုလဲ၏ ခင်ပွန်း ဖြစ်သည်။ သီလဝ၏ နမ ခမည်းမိကိုလည်း မင်းကြီးစွာစော်ကဲက မိဖုရား ပြုသည်။ သီလဝကား ရဲစွမ်းသတ္တိ အရည်အသွေးနှင့်လည်း ပြည့်စုံသည်။ တစ်သက်လုံးမှ ၃ ခါသာ ပြုံးရယ်ဘူးသည် ဟူ၍လည်း သမိုင်းတွင် ဥဒါန်းတွင်ခဲ့သူ ဖြစ်သည်။

## (၆) စည်းတပြစ်ကြီး

အင်းဝ မင်းကြီးစွာစော်ကဲ လက်ထက် သက္ကရာဇ် ၇၃၀ မှ စ၍ ပဉ္စမ မင်းခေါင် လက်ထက် ၇၈၃ ခုနှစ် အထိ မင်း ၃ ဆက် နှစ်ပေါင်း ၅၃ နှစ် တိုင်တိုင် အမှုထမ်းခဲ့၍ ပညာရှိ မင်းကြီး ဘိုးရာဇ အမည်ဖြင့် ထင်ရှားခဲ့သူ ဖြစ်သည်။

## (၇) မင်းလှငယ်

အင်းဝတွင် သက္ကရာဇ် ၇၈၇ ခုနှစ်၌ ၃ လသာ မင်းပြုရသော မင်းလှငယ် ဖြစ်သည်။ သူ၏ ခမည်းတော် သီဟသူကို အုန်းဘောင်စော်ဘွားက လုပ်ကြံ၍ အနိစ္စရောက်ရာ မှူးမတ်တို့က ၉ နှစ်သားသာ ရှိသေးသော ဤ မင်းလှငယ်ကို နန်းတင်ကြသည်။ ခမည်းတော် သီဟသူ၏ မိဖုရားဖြစ်သူ ရှင်ဘို့မယ်က မကျေနပ်၍ သူမနှင့် ချစ်ကြိုက်ဘူးသော ကလေးကျေးတောင်ညိုကို ချီလာစေပြီး ရှင်ဘို့မယ်က မင်းလှငယ်ကို အဆိပ်ခတ်သတ်ကာ ကလေးကျေးတောင်ညိုကို နန်းတင်ခဲ့သည်။

### (၈) မင်းကြီး ရန်နောင်

အင်းဝ၌ ရှမ်းမင်း သိုးဟန်ဘွား (၈၈၈- ၉၀၄) သည် မြန်မာများကိုလည်း ညှင်းပန်း နှိပ်စက်သည်။ ဗုဒ္ဓ ပိဋကတ်တော်များ ကိုလည်း ဖျက်ဆီးပစ်သည်။ သို့ဖြင့် မြန်မာများ မခံမရပ်နိုင် ဖြစ်ကာ သိုဟန်ဘွားထံ ခစားနေသော မြန်မာအမတ် မင်းကြီးရန်နောင်က ခေါင်းဆောင်၍ ရှမ်းမင်းကို တော်လှန် သတ်ဖြတ်ပစ်လိုက်ကြသည်။ သို့သော် မင်းကြီးရန်နောင်မှာ ထီးနန်းကို မယူဘဲ ငြင်းပယ်ခဲ့ပြီး တောထွက်ကာ ရဟန်းပြုသွားသည်။

### (၉) သတိုးမင်းစော

ဟံသာဝတီ ဆင်ဖြူရှင် မင်းတရားကြီး၏ ညီ သမက် ဖြစ်သည်။ သက္ကရာဇ် ၉၁၆ ခုမှ ၉၄၅ ခုနှစ် အထိ အင်းဝ၌ ဘုရင်ခံအဖြစ် အုပ်စိုးသည်။ ဟံသာဝတီ ဆင်ဖြူရှင် မင်းတရားကြီး၏ သားတော် ငါးဆူ ဒါယကာမင်း လက်ထက်တွင် ငါးဆူ ဒါယကာနှင့် တိုက်ခိုက်ရာ သတိုးမင်းစော အရေးနိမ့်၍ ရှမ်းပြည်သို့ ပြေးခဲ့ရာမှ ခန္တီးတွင် အနိစ္စရောက်သည်။

### (၁၀) ငါးဆူ ဒါယကာမင်း

ဟံသာဝတီ ဆင်ဖြူရှင် မင်းတရားကြီး သားတော်ဖြစ်၍ ဟံသာဝတီ၌ သက္ကရာဇ် ၉၄၃ ခုမှ ၉၆၁ ခုနှစ် အထိ မင်းပြုသည်။ တောင်ငူစား ညီတော် မင်းရဲသီဟသူက ရခိုင်နှင့် ပူးပေါင်း တိုက်ခိုက်၍ တောင်ငူ၌ ငါးဆူ ဒါယကာ အသတ်ခံရသည်။

### (၁၁) မင်းရဲဒိဗ္ဗ

ညောင်ရမ်းခေတ် အနောက်ဖက်လွန်မင်း (၉၆၇- ၉၉၀) ၏ သားတော်တစ်ပါး ဖြစ်သည်။ ခမည်းတော်၏ ကိုယ်လုပ်တော် ဂုံမင်းသမီး နှင်းခန်းပေါ်နှင့် ရည်ငံမိကြရာတွင် ခမည်းတော်က "သံအိုးကင်းနှင့် ကြော်မည်" ဟု ခြိမ်းခြောက်ရုံမျှ မိန့်သည်ကို တကယ်ထင်၍ လူဆိုးတို့နှင့် ပေါင်းကာ သက္ကရာဇ် ၉၉၀ ပြည့်နှစ်တွင် ပဲခူးချောင်း အနောက်ဖက်၌ ခမည်းတော်ကို လုပ်ကြံ သတ်ဖြတ်ပစ်သူ ဖြစ်သည်။

### (၁၂) ရှင်တရုပ်

ညောင်ရမ်းခေတ် သာလွန်မင်းတရား (၉၉၀- ၁၀၁၀) ၏ သားတော်တစ်ပါး ဖြစ်သည်။ ဆိုးသွမ်း မိုက်မဲသည်။ သက္ကရာဇ် ၁၀၀၉ ခုနှစ်တွင် ခမည်းတော်ကို ပုန်ကန်ရာ သေနတ်ထိမှန် သေဆုံးခဲ့သည်။

### (၁၃) မဟာသတိုးသီဟသူရ

ညောင်ရမ်းခေတ် သာလွန်မင်းတရား လက်ထက်မှ စ၍ စနေမင်း လက်ထက်အထိ အတောအတွင်း လေးဆယ်တော်သား၊ ကွမ်းရေတော်ကိုင်၊ မြို့ဝန်၊ ဝန်ကြီး အဆင့်အထိ ဖြစ်လာသည်။ သို့ဖြစ်ပင် လက်ယာရွှေတောင်၊ နေမျိုးကျော်ထင်၊ နေမျိုးသခ်ယာ၊ သတိုးသီဟသူ၊ မဟာသတိုးသီဟသူ ဘွဲ့များကိုလည်း တစ်ဆင့်ပြီး တစ်ဆင့် ရရှိခဲ့သည်။ သက္ကရာဇ် ၁၁၆၁ ခုနှစ်တွင် အဖျောက်ဖျက် ခံရသည်။

### (၁၄) မင်းရဲသီဟသူကျော်ထင်

ညောင်ရမ်းခေတ် တနင်္ဂနွေမင်း (၁၀၇၆- ၁၀၉၅) လက်ထက် စစ်ဗိုလ်တစ်ဦး ဖြစ်သည်။ ကျိုင်းတုံ - ပုဂံ တို့တွင် အောင်မြင်ခဲ့သည်။ သက္ကရာဇ် ၁၀၈၆ ခုနှစ်တွင် ကသည်းစော်ဘွားကို နှိမ်နင်းရန် သောင်သွတ်ကြောင်း ချီရာ၌ အရေးမလှ၍ ဘုရင်က အဝေးမြို့ မိုးညှင်းသို့ ပို့ထားသည်။ ထို မိုးညှင်းမြို့၌ပင် အနိစ္စရောက်သည်။

### (၁၅) ဝေါကြီးမှူး

အင်းဝဘုရင် ဆင်ဖြူရှင်၏ သားတော်နှင့် ကစားဖက် ကျွန်ရင်း ဖြစ်သည်။ ဆင်ဖြူရှင်၏ သားတော် မင်းဖြစ်လျှင် ဝေါကြီးမှူးအရာ ရသည်။ ပါရစီ ကုလား မှူးမတ်များနှင့် မသင့်မပျော်၍ ထွက်လာသည်။ အင်းဝ ပျက်သောအခါ မွန်တို့ကို ရှိမခိုးလို၍ ရဟန်းပြုသည်။ ခြေအေးလေနာ ရှိသည့်အပြင် နေ့ညမရွေး အစာ စားလွန်းသောကြောင့် စားပိုးနင့်၍ သေဆုံးသည်။

စောင်းအတတ်ကို အပြီးတိုင် တတ်မြောက်သူ ဖြစ်၍ စောင်း သင်လို တတ်လိုသူများ ပူဇော် ပသ ကိုးကွယ်ကြသည်။

### (၁၆) သတိုးမင်းကြီး

ညောင်ရမ်းခေတ် ဟံသာဝတီရောက်မင်း (၁၀၉၅- ၁၁၁၃) လက်ထက် ရှင် ဝိစိတ္တာစာရ ဟူသော ရဟန်းအမည်ဖြင့် ထင်ရှားသည်။ စာပေကျမ်းဂန် တတ်မြောက်သည်။ လူပြုပြီးနောက် မင်းဆရာ ဖြစ်လာသည်။ ထို့နောက် မာနကြီး၊ စော်ကား၊ နှိပ်စက်လေသဖြင့် အရာကျကာ ရှက်လည်း ရှက်၊ သံဝေဂလည်း ရ၊ စိတ်လက် မချမ်းမသာနှင့် သေဆုံးရသည်။

### (၁၇) သခင်စစ်

အင်းဝမင်းများ လက်ထက် မြင်းခင်းသဘင်တွင် ကျော်စောသော မြင်းစီးကောင်း အရာရှိတစ်ဦး ဖြစ်သည်။

### (၁၈) ထိလပ်

မပိုးအု ယောက်ျားနှင့် တူသည်။ ၎င်းသည် အမတ်မျိုး ဖြစ်၍ အဆင်းလှ၊ အားကောင်း၊ ရှိမ်းပြီး သိဒ္ဓိပြီးသည်။ တစ်ခါ၌ ဘုရင့်သမီးနှင့် ရည်ငံမိ၍ ဘုရင်က ဖမ်းပြီး လှေနှစ်စင်းနှင့် ဖောင်ဖွင့် (ဖောင်ဖြဲ) ၍ သတ်စေရန် အမိန့်ပေးသည်။ သတ်သော်လည်း မသေပေ။ စိတ်လျှော့မှ သေသည်။

### (၁၉) မင်းရဲဇယသူ

အင်းဝမင်းများ လက်ထက် ဟံသာဝတီမြို့ဝန် ခန့်ထားရာမှ ဘုရင်က ပြန်ခေါ်၍ ပြန်ရောက်လာရာတွင် အိမ်ယာမဆောက်ဘဲ နန်းတော်အောက်၌ ပုန်းအောင်းနေသည်။ ဘုရင်သည် ကျောင်းတင်မင်္ဂလာ ထွက်စံရာတွင် မကြုံအပ်သည်ကို ကြုံစည်မိ၍ အသတ်ခံရသည်။

ဤ ဝန်ကြီး ပဒေသရာဇာ၏ စာရင်းအရ မတူသော အပြင် ၃၇ မင်းနတ် ၁၉ ဦးတို့ကို ခေတ်အရ ခွဲဝေလိုက်လျှင် -

ပုဂံခေတ် ၂ ဦး

မြင်စိုင်းခေတ် ၁ ဦး

ပင်းယခေတ် ၁ ဦး

အင်းဝခေတ် ၈ ဦး

တောင်ငူခေတ် ၂ ဦး

ညောင်ရမ်းခေတ် ၅ ဦး

ပေါင်း ၁၉ ဦး ဖြစ်ကြောင်း တွေ့ရှိရသည်။

**မန္တလေး ရွှေမြို့တော်တည် စာတမ်းအရ အပြင် ၃၇ မင်း စာရင်း**

မန္တလေး ရွှေမြို့တော်တည် စာတမ်းအရ အပြင် ၃၇ မင်း စာရင်းမှာ မြဝတီ ဝန်ကြီး ဦးစ၏ စာရင်းနှင့် အနည်းငယ် ကွဲပြားလျက် ရှိသည်။

မြဝတီ ဝန်ကြီး၏ အတွင်း ၃၇ မင်း စာရင်း၌ ပါရှိသော -

စန္ဒီ

စန္ဒာ





အာဠဝီ နတ်သုံးပါးမှာ ယင်း မန္တလေး ရွှေမြို့တော်တည် စာတမ်းစာရင်း၌ မပါရှိဘဲ ယင်းတို့အစား -

အာဠာဝက

ကြေးစန္ဒီ

ကြေးစန္ဒီ နတ်သုံးပါး ပါဝင်လျက် ရှိ၏။ ထို့အတူ မြဝတီ ဝန်ကြီး၏ အပြင် ၃၇ မင်း စာရင်း၌ ပါရှိသော -

သိကြား

နှမတော်

ကျော်စွာ

တောင်ငူ ရှင်မင်းခေါင် နတ်လေးပါးမှာ ယင်း မန္တလေး ရွှေမြို့တော်တည် စာတမ်း စာရင်း၌ မပါရှိဘဲ ယင်းတို့အစား -

တောင်ကြီးရှင်

မယ်တော် ရွှေအိမ်စီ

ဘိုးမင်းကျော်

ကိုးကျောင်းတကာ နတ်လေးပါး ပါဝင်နေသည်ကို တွေ့ရှိရပေသည်။

ဤသို့ ဝန်ကြီး ပဒေသရာဇာ၏ အပြင် ၃၇ မင်း စာရင်းနှင့် မန္တလေး ရွှေမြို့တော်တည် စာတမ်းအရ အပြင် ၃၇ မင်း စာရင်းတို့ကို နတ်သုတေသီများအတွက် ဗဟုသုတ ဖြစ်ရန်သာ ဖော်ပြလိုက်ခြင်း ဖြစ်သည်။

ယခုအခါ မြန်မာတစ်နိုင်ငံလုံး အသိအမှတ်ပြုကာ ကိုးကွယ်နေကြသော စာရင်းမှာ မြဝတီ ဝန်ကြီး၏ စာရင်းအတိုင်းသာ ဖြစ်သည်။ သို့ဖြစ်ရာ မြဝတီ ဝန်ကြီး၏ စာရင်းအတိုင်းသာ အပြင် ၃၇ မင်း စာရင်းကို အတည်ပြု မှတ်သားကြရမည် ဖြစ်ပေသည်။





## (၅)

## မောင်တင့်တယ် နတ် မောင်နှမနှင့် ကွင်းဆက် နတ်များ

### နတ် ၇ ပါး

ပန်းဘဲ မောင်တင့်တယ်နှင့် ၎င်း၏ နှမ စောမယ်ယာတို့ နတ်ဖြစ်ခဲ့သည့် အကြောင်းနှင့် ၎င်းတို့ နတ်မောင်နှမ ပုဂံသို့ ရောက်လာပုံ အကြောင်းများကို အထက်က ဖော်ပြခဲ့ပြီး ဖြစ်သည်။ ၎င်းတို့ နတ်မောင်နှမနှင့် တဆက်တည်း ဖြစ်ခဲ့ကြသော ကွင်းဆက်နတ်များလည်း ရှိသေးသည်။ ၎င်းတို့မှာ -

၁။ ပန်းဘဲ မောင်တင့်တယ် (မင်းမဟာဂီရိ)

၂။ ရွှေမျက်နှာ ခေါ် နှမတော်နတ် (နှမကြီး စောမယ်ယာ)

၃။ သုံးပန်လှ (နှမ အငယ် ရှင်ထွေးလှ)

၄။ ရှင်နဲမိ ခေါ် မနဲလေး (သုံးပန်လှ ရှင်ထွေးလှ၏ သမီး)

၅။ ရွှေနဘေ (မောင်တင့်တယ်၏ ဇနီး)

၆။ တောင်မကြီး ရှင်ညို (မောင်တင့်တယ် နှင့် ရွှေနဘေ တို့၏

၇။ မြောက်မင်း ရှင်ဖြူ သားများ)

တို့ ဖြစ်သည်။ ဤ နတ် ၇ ပါးလုံးမှာ အပြင် ၃၇ မင်း၌ ပါဝင်သော နတ်များ ဖြစ်သည်။

၎င်းတို့၏ အတ္တုပတ္တိ သမိုင်းကွင်းဆက်များမှာ ကြေကွဲစရာလည်း ကောင်း၊ စိတ်ဝင်စားစရာလည်း ကောင်းလှပေသည်။

**မဟာဂီရိ**

ပန်းဘဲ မောင်တင့်တယ်တို့ မောင်နှမ နတ် ဖြစ်ခဲ့ရခြင်း အကြောင်းကို အထက်က ဖော်ပြခဲ့ပြီး ဖြစ်သည်။

ဤ၌ ယင်း ပန်းဘဲ မောင်တင့်တယ်ကို မဟာဂီရိဟူ၍ လည်းကောင်း၊ မင်းမဟာဂီရိ ဟူ၍ လည်းကောင်း၊ အိမ်တွင်း မင်းမဟာဂီရိဟူ၍ လည်းကောင်း အဘယ့်ကြောင့် အစဉ်အဆက် ခေါ်ဝေါ်ခဲ့ကြခြင်း အကြောင်းကို ဖော်ပြလိုပေသည်။

ပုပ္ပားတောင်ကြီးသည် မြတ်သော တောင်ကြီးဖြစ်၍ မဟာဂီရိတောင်ဟု ရှေးအခါက ခေါ်ဝေါ်ခဲ့ကြသည်။ သေလည်ကြောင်မင်းက ပန်းဘဲမောင်တင့်တယ် နတ်မောင်နှမကို ပုပ္ပားတောင်၌ နတ်ကွန်း၊ နတ်နန်းနှင့် ထားသောကြောင့် ယင်း မဟာဂီရိ ခေါ် ပုပ္ပားတောင်ကို အစွဲပြုကာ မဟာဂီရိနတ်ဟု ခေါ်တွင်ခဲ့ကြသည်။

**မင်းမဟာဂီရိ**

ထို့ပြင် သေလည်ကြောင်မင်း လက်ထက်မှ စ၍ တစ်နှစ်လျှင် တစ်ကြိမ် နတ်တော်လ ရောက်တိုင်း မင်း၊ မှူးမတ်၊ ပြည်သူများ ပုပ္ပားတောင်သို့ သွားရောက်၍ ပူဇော် ပသကြသည်ကို အစွဲပြု၍လည်း မင်းမဟာဂီရိဟု ခေါ်တွင်ခဲ့ကြပြန်သည်။

**အိမ်တွင်း မင်းမဟာဂီရိ**

မြန်မာနိုင်ငံ၌ ပုဂံခေတ် သေလည်ကြောင်မင်း လက်ထက်မှ စ၍ အနော်ရထာမင်း နန်းတက်စ အချိန်အထိ နတ်ကိုးကွယ်မှု အကြီးအကျယ် ထွန်းကားခဲ့သည်ဟု ဆိုရမည်။ အနော်ရထာမင်း နန်းတက်ပြီး ပုဂံသို့ ကြွရောက်လာသော အရှင် အရဟံ မထေရ်၏ ဟောကြား ဆုံးမမှုကြောင့် အရည်းကြီးတို့၏ တန္တရယာန၊ မန္တရယာန သာသနာကို မင်းမိန့်ဖြင့် သုတ်သင် ဖျက်ဆီးကာ ပြည်သူလူထုကြီးအား ထေရဝါဒ သာသနာကို ခံယူ ကိုးကွယ်စေခဲ့သည်။

ထိုအချိန်က ပုဂံပြည်သူ ပြည်သားတို့သည် မိမိတို့၏ အိမ်ရှေ့၌ နတ်ကွန်း၊ နတ်နန်းများ ဆောက်လုပ်ကာ နတ်ကိုးကွယ်မှုမှာ လိုအပ်သည်ထက် ပို၍ ရှေ့တန်းရောက်လွန်းလျက် ရှိသည်။ ထို့ကြောင့် အနော်ရထာမင်းကြီးသည် ပုဂံပြည်သူတို့၏ ရှေ့တန်းရောက်လွန်း အားကြီးနေသော နတ်ကွန်း၊ နတ်နန်းများကို ဖျက်သိမ်းပစ်စေလေသည်။ ယင်းသို့ အိမ်ရှေ့၌ နတ်ကွန်း၊ နတ်နန်း မထားရသောကြောင့် ပုဂံ ပြည်သူများသည် အိမ်တွင်း၌ အုန်းဆွဲကာ မဟာဂီရိနတ်ကို ကိုးကွယ်ခဲ့ကြသည်။ ယင်းကို အစွဲပြု၍ အိမ်တွင်း မင်းမဟာဂီရိဟု ခေါ်တွင်ခဲ့ကြခြင်း ဖြစ်သည်။

သို့ဖြစ်ရာ အိမ်တွင်း၌ နတ်အုန်းသီး ဆွဲသည့် အစဉ်အလာမှာ ပုဂံခေတ်ကပင် စတင်ခဲ့ခြင်း ဖြစ်သည်ဟု ယူဆနိုင်ပေသည်။

## နတ်အုန်းသီး

အိမ်တွင်း၌ နတ်အုန်းသီး ဆွဲသည့် အဓိပ္ပာယ်မှာ မီးလောင်ခံရသူတို့အား အုန်းရည်ဖြင့် ကုသခြင်းသည် အကောင်းဆုံးဖြစ်၍ မင်းမဟာဂီရိကို ရည်စူးပြီး နတ်အုန်းသီး ဆွဲ၍ ပူဇော်ခြင်း ဖြစ်သည်။ သို့သော် ယင်း နတ်အုန်းသီးအား -

၁။ အုန်းရည် မခန်းခြောက်စေဘဲ အသစ်လဲ၍ ဆွဲရခြင်း။

၂။ အမွှေးနံ့သာရည် ပက်ဖြန်းရခြင်း။

၃။ ယပ်ခပ် ပေးရခြင်း။

၄။ အုန်းတော်၏ ယာဖက်၌ ယပ်၊ ဝဲဖက်၌ ဓား ဆက်ထားရခြင်း။

၅။ အုန်းတော်၏ အနီးတွင် လင်စုံမယားဖက် မအိပ်ရခြင်း။

၆။ ခေါင်းရမ်းပန်း၊ စကားပန်း၊ ဖယောင်းတိုင်၊ အမွှေးတိုင်များကို ထွန်းညှိ ပူဇော် ဆက်သမှု မပြုရခြင်း။

ဟူသော သတ်မှတ်ချက်များ ရှိကြောင်း အမှတ်အသားများ ရှိသည်။

အချို့ကမူ မင်းမဟာဂီရိနတ်သည် ပန်းဘဲ မောင်တင့်တယ် မဟုတ်ဘဲ ၎င်း၏ နမအကြီး စောမယ်ယာသာ မင်းမဟာဂီရိ ဖြစ်သည်ဟု ယူဆကြသည်။ ယင်းသို့ ယူဆခြင်းမှာ တကောင်း မင်းကြီးက မောင်တင့်တယ်ကို စကားပင်နှိုက် ချည်နှောင်ပြီး ဖိုကျဉ်ထိုး သတ်စဉ်က စောမယ်ယာသည် "ငါ့ကြောင့် ငါ့အကို သေဆုံးရလေခြင်း" ဟု ယူကြုံးမရ ဖြစ်ကာ မီးပုံတွင်းသို့ ခုန်ဆင်း သေဆုံးခဲ့သည်။ ဤတွင် အစောင့်အကြပ်များက လိုက်၍ ဆွဲငင်လိုက်ရာ ကိုယ်ကိုသာ မီးလောင်ကျွမ်းသွား၍ ခေါင်းမှာ မီးမလောင်ဘဲ ကျန်ရစ်ခဲ့သည်။ ထိုအခါ ကြီးမြတ်သော ဦးခေါင်းဖြစ်၍သာ မီးမလောင်နိုင်ခြင်း ဖြစ်သည်ဟု ယူဆကာ စောမယ်ယာ၏ ဦးခေါင်းကို ဖြတ်ယူ၍ ရွှေချပြီး မဟာဂီရိ အမည်ဖြင့် နန်းတွင်းသူ နန်းတွင်းသား မောင်းမမိသံများက ကိုးကွယ်ခဲ့ကြသည်။

ယင်းသို့ စောမယ်ယာ၏ ဦးခေါင်းကို နန်းတွင်း၌ ထား၍ ကိုးကွယ်ကြသော်လည်း စောမယ်ယာမှာကား နတ်ဘဝနှင့် သူ၏ အကို မောင်တင့်တယ် နေရာ စကားပင်၌သာ နေထိုင်ခဲ့သည်ဟု ဆိုသည်။

## ပုပ္ပားတောင်နှင့် မဟာဂီရိ

ပုဂံပြည်သို့ မောင်တင့်တယ် နတ်မောင်နှမ ရောက်ရှိလာသော အခါ၌ ပုဂံဘုရင် သေလည်ကြောင်မင်းက စကားသားကို မောင်တင့်တယ်အတွက် အရပ် ခုနစ်တောင် မြင့်သော နတ်ရုပ် ထုလုပ်၍ နမတော် ရွှေမျက်နှာနတ် ခေါ် စောမယ်ယာအတွက် စကားတုံးတွင် ခေါင်းပုံ ရွှေစဝါ ရေး၍ ပုပ္ပားတောင်တွင် နတ်ကွန်း၊ နတ်နန်းနှင့် ထားသည်ဟု မှတ်တမ်းရှိသည်။

ကုန်းဘောင်ခေတ် အလောင်းမင်းတရားကြီး လက်ထက်၌လည်း ရွှေအလေးချိန် ၅ ပိဿာကို နမတော် စောမယ်ယာ၏ ဦးခေါင်းပုံ ထုလုပ်၍ နတ်ကွန်း၊ နတ်နန်း၌ ထားကာ အိမ်ထောင်စုံ ၇ အိမ်ထောင်ကိုပါ နတ်ထိန်းအဖြစ် ခန့်အပ်ခဲ့ဘူးသည်။

ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော် ဖ-ဆ-ပ-လ အစိုးရ လက်ထက်၌လည်း ပုပ္ပားတောင်၌ နတ်ကွန်း၊ နတ်နန်းများ အသစ်ဆောက်လုပ်ကာ အင်းဂတေ ကွန်ကရစ်များနှင့် မဟာဂီရိ မောင်တော်- နမတော် ပုံများကို ထုလုပ်ထားခဲ့သည်။ သို့သော် အောက်ခံပုံ မပါပေ။

## စောမယ်ယာနှင့် ငယ်ရည်းစား

ပုပ္ပားတောင်ကို မြတ်သောတောင်၊ နတ်တောင် ဟူ၍ ရှေး အစဉ်အလာကတည်းက အသိအမှတ် ပြုခဲ့ကြသည်။ မြန်မာစာပေ သမိုင်း၌ ယင်း ပုပ္ပားနတ်တောင်ကို ဖွဲ့ဆိုထားသော အလွန် ရှေးကျသည့် နတ်သံ လင်္ကာ ၄ ပိုဒ် ရှိသည်။ ယင်း နတ်သံ လင်္ကာ ၄ ပိုဒ်ကို စောမယ်ယာ၏ ငယ်ရည်းစား လွမ်းဆွတ် ကြည်နူးလျက် ဖွဲ့ဆိုခဲ့ခြင်း ဖြစ်သည်ဟု အမှတ်အသား ရှိသည်။

စောမယ်ယာမှာ တကောင်းမင်းကြီး မိဖုရား မမြှောက်ခင်က သူမ၏ ဖခင် ပန်းဘဲသူကြီး ဦးတင့်တော်၏ အမက မွေးသော သားနှင့် မောင်နှမ ဝမ်းကွဲချင်း ၁၃ နှစ်ရွယ်မှ စတင်ကာ ချစ်ခင်စုံမက် ရည်းစား ဖြစ်ခဲ့ကြသည်။ တကောင်းမင်းကြီးက စောမယ်ယာကို မိဖုရား မြှောက်လိုက်သောအခါ သူမ၏ ငယ်ချစ် ရည်းစားမှာ ထွက်ပြေး တိမ်းရှောင်နေခဲ့ရသည်။

ထို့နောက် စောမယ်ယာ သေ၍ နတ်ဖြစ်ပြီး ပုပ္ပားတောင်၌ နတ်ကွန်း၊ နတ်နန်းနှင့် နတ်ရုပ် ထုလုပ် ကိုးကွယ်ထားသောအခါ ပုပ္ပားတောင်မှာ စကားပင်တို့ဖြင့် လှပ တင့်တယ်စွာ ပေါက်ရောက် ဖူးပွင့်လျက် လွမ်းဆွတ် ကြည်နူးစရာ ကောင်းလှသည်။ ထို့ကြောင့် စောမယ်ယာ၏ ငယ်ရည်းစား လွမ်းဆွတ် ကြည်နူးလျက် ဖွဲ့ဆိုခဲ့ခြင်း ဖြစ်သည်။

## ပုပ္ပားနတ်တောင်ဘွဲ့ နတ်သံ လင်္ကာ ၄ ပိုဒ်

(၁) သိုးကလေး။ ။ ပုပ္ပား နတ်တောင်၊ အခေါင်မြင့်ဖျား၊ စုံတောပြား၌၊ နံ့ရှား ကြိုင်လွင့်၊ ခါတန်ပွင့်သည်။ ။ ရွှေနှင့် ယိုးမှား ပန်းစကား။

(၂) သိုးကလေး။ ။ စကားပွင့်နှင့်၊ နှိုင်းတင့်နိုးသည်။ ရဲမျိုးသမီး၊ မောင်ကြီးနမ၊ ညက်လှ ပြာစင်။ ။ မဲ့သည်ပင်သည် ခရီးသား။

(၃) သိုးကလေး။ ။ မြိတ်လွယ်စုလည်း၊ အငယ်ကတည်းက၊ ကျွမ်းဝင်ကြသည်။ မွေးဘ တူရင်း၊ မျိုးသည်မင်းနှင့်၊ ချစ်ချင်း စုရုံး၊ သက်ထက် ဆုံးသည်။ ။ နလုံးမခြား စောင့်တရား။

(၄) ဆွေမိမင်း။ ။ မျက်သုတ်နီစင်၊ ရထည်းဖျင်နှင့်၊ ကျိုင်းစင် မြဝါ၊ မတ်ကြီးလျာကို။ ။ မယ်သာကြိုက်မိ တုမရှိ။

ဤ၌ "သိုးကလေး" ဆိုသည်မှာ နတ်မိဖုရားကို ခေါ်ဆိုခြင်း ဖြစ်သည်။

(၆)

ရွှေဖျဉ်း ညီနောင်နှင့်

ကွင်းဆက် နတ်များ

နတ် ၉ ပါး

ပုဂံခေတ် အနော်ရထာမင်း လက်ထက်တွင် ရွှေဖျဉ်းညီနောင် နတ်ဖြစ်ခဲ့၍ အပြင် ၃၇ မင်း စာရင်း၌ ထည့်သွင်းထားခဲ့ကြောင်းကို အထက်က ဖော်ပြခဲ့ပြီး ဖြစ်သည်။ ထိုခေတ် ထိုအချိန်က ရွှေဖျဉ်းညီနောင်နှင့် တဆက်တည်း ဖြစ်ခဲ့ကြသော ကွင်းဆက် နတ်များမှာ အောက်ပါအတိုင်း ၉ ပါး ရှိသည်။

၁။ ပုပ္ပား မယ်တော် နတ်

၂။ မယ်ဝဲမာ ခေါ် ခင်မသာ နတ်

၃။ တောင်တော် သခင်မ နတ်

၄။ မစောခင် နတ်

၅။ မောင်ရင်မောင် နတ်

၆။ နို့ထိမ်း မယ်တော် နတ်

၇။ နမတော် နတ်

၈။ စာရေးတော်ကြီး နတ်

၉။ ဂူတော်ရှင်မ နတ်

(၁) ပုပ္ပားမယ်တော် နတ်

မောင်ဖျတ္တ၏ ဇနီးဖြစ်သူ ပန်းစားဘီလူးမ မယ်ဝဏ္ဏသည် မောင်ဖျတ္တ ရာဇဝတ်သင့်၍ အသတ်ခံရပြီးနောက် သူ၏ သားနှစ်ယောက် ဖြစ်သော ရွှေဖျဉ်းကြီး၊ ရွှေဖျဉ်းငယ်တို့ကို အနော်ရထာမင်းကြီး၏ အမိန့်နှင့် ခေါ်ယူသွားရာတွင် ရင်ကွဲနာကျ သေဆုံးပြီး နတ်ဖြစ်သည်။ တောင်ပြုံး၌ ထင်ရှားသော နတ်ဖြစ်သည်။

(၂) မယ်ဝဲမာ နတ်

ပုဂံပြည် ပုဏ္ဏား အမတ်မျိုး၏ သမီး ဖြစ်၍ အမည်မှာ မယ်ဝဲမာ ဖြစ်သည်။ ယင်းကို ပုပ္ပားမယ်တော်က ချစ်၍ လိပ်ပြာနှုတ် ခေါ်ထားပြီး သမီးအဖြစ် မွေးစားသည်။ ပုပ္ပားမယ်တော်၏ အခြံအရံဟုလည်း အချို့ မှတ်တမ်းများ၌ တွေ့ရသည်။ အချို့ကလည်း ခင်မသာ ဟု ခေါ်ဆိုကြသေးသည်။ ယင်း ခင်မသာ နတ်လည်း တောင်ပြုံး၌ ထင်ရှားသည်။

### (၃) တောင်တော်သခင်မ နတ်

တောင်ပြုံးနယ် အင်ကျယ်ရွာ သူကြွယ်တစ်ဦး၏ သမီးဖြစ်၍ အမည်မှာ မရွှေဥ ဖြစ်သည်။ တောင်ပြုံးရွာသား သစ်ကုန်သည် မောင်ရင်မောင်နှင့် အကြောင်းပါ၍ တောင်ပြုံးရွာသို့ လိုက်နေသည်။ ထို့နောက် အထက် မဲဇာအရပ်သို့ မောင်ရင်မောင် သစ်ဖောင်ချ သွားနေစဉ် တောင်ပြုံး မင်းကလေး ရွှေဖျဉ်းငယ်က မေတ္တာရှိရာတွင် မေတ္တာမပြန်သောကြောင့် ကျားနှင့် တိုက်သတ်ရာ သေ၍ နတ်ဖြစ်သည်။

ယင်းသို့ လူ့ဘဝက ကျားနှင့် တိုက်သတ် ခံရသောကြောင့် တောင်တော်သခင်မ အဖြစ်သို့ ရောက်နေသည့် တိုင်အောင် ရန်ညှိုးမပြေဟု ဆိုရိုး အစဉ်အလာ ရှိသည်။ တောင်ပြုံးပွဲတော်ချိန်၌ ရွှေဖျဉ်းညီနောင် နတ်ရုပ်များကို ရေဆိပ်သို့ ထမ်းစင်နှင့် ယူဆောင်သောအခါ မယ်ဥ နတ်စင် ဘေးနားရှိ လမ်းက ယူကြရသည်။ ထိုအခါ မယ်ဥ နတ်စင်ကို ကုလားကာ စသည်တို့ဖြင့် လုံခြုံအောင် ကာပေးထားကြရသည်။ ယင်းသို့ ကာထားရခြင်းမှာ လူ့ဘဝတုန်းက ကျားနှင့် တိုက်သတ်ခံထားရ၍ မယ်ဥက စိတ်နာသောကြောင့် မကြည့်လို မမြင်လို၍ ဖြစ်သည်။ အကယ်၍ မယ်ဥ နတ်စင်ကို လုံခြုံအောင် ကာမထားမိပါက ရွှေဖျဉ်းညီနောင် နတ်များကို ယူလာသောအခါ မယ်ဥ နတ်ရုပ်သည် အလိုလို တစ်ဖက်သို့ လှည့်၍ ကျောခိုင်းနေတတ်သည်ဟု ပြောရိုး အစဉ်အလာ ရှိသည်။

ယင်းနတ်မှာ တောင်ပြုံး၌လည်း နတ်ရုပ်၊ နတ်စင်နှင့် ရှိ၍ သခင်မတောင် ခေါ် တောင်တော် ခေါ် မယ်ဥတောင်၌လည်း နတ်ရုပ်၊ နတ်စင် ရှိသည်။

### (၄) မစောခင်နတ်

ရှမ်းအမျိုးသမီး ဖြစ်၍ အမည်မှာ မစောခင် ဖြစ်သည်။ မိုင်းလုံမြို့မှ အင်ကျယ်ရွာသို့ ပြောင်းရွှေ့နေထိုင်၍ မရွှေဥနှင့် အိမ်နီးချင်း ယက္ကန်း ပြိုင်ယက်ဘက် ဖြစ်သည်။ မရွှေဥ၏ အတိုင်ပင်ခံ နတ်ဟုလည်း အဆိုရှိသည်။ ယင်း နတ်သည်လည်း တောင်ပြုံး၌ ထင်ရှားသည်။

### (၅) မောင်ရင်မောင် နတ်

မရွှေဥ ခင်ပွန်း မောင်ရင်မောင်သည် အထက် မဲဇာမှ ပြန်လာရာ တောင်ပြုံးရွာသို့ ရောက်လျှင် တောင်ပြုံး မင်းကလေးက မရွှေဥကို ကျားနှင့် တိုက်သတ်ကြောင်း ကြားသိရသည်။ ထိုအခါ မရွှေဥကို ကျားချီသွားစဉ်က မရွှေဥ၏ ခါးစီးတဘက် ကျကျန်ရစ်သော နေရာနှင့် သားတစ်များ ကျကျန်ရစ်ခဲ့သော နေရာ နှစ်ခုကြားတွင် မောင်ရင်မောင်သည် ရင်ကွဲနာကျ၍ သေဆုံးပြီး နတ်ဖြစ်သည်။

### (၆) နို့ထိန်းမယ်တော် နတ်

ရွှေဖျဉ်းကြီး၊ ရွှေဖျဉ်းငယ် နှစ်ပါးတို့၏ နို့ထိန်း ဖြစ်သည်။ တောင်ပြုံးအရပ်၌ မင်းညီနောင် နှစ်ပါး ကွပ်မျက်ခံရကြောင်း ကြားသိရ၍ ရင်ကွဲနာကျပြီး သေဆုံးကာ နတ်ဖြစ်သည်။ တောင်ပြုံး၌ ထင်ရှားသော နတ်ဖြစ်သည်။

### (၇) နမတော် နတ်

နို့ထိန်းမယ်တော်၏ သမီး ဖြစ်၍ ရွှေဖျဉ်းညီနောင်နှင့် နို့စို့ဖက် ဖြစ်သည်။ မယ်တော်နှင့် မောင်တော် နှစ်ပါးကို လွမ်းဆွတ်ကြေကွဲ၍ ရင်ကွဲနာကျပြီး နတ်ဖြစ်သည်။

### (၈) စာရေးတော်ကြီး နတ်

ရွှေဖျဉ်းညီနောင်နှင့် လူ့ဘဝက အတူနေ၍ စာရင်းအင်း ရေးမှတ်ပေးရသူ ဖြစ်သည်။ ကိုးကျောင်း ဒါယကာ စာရေးတော်ကြီး ဦးသာနီးဟု ခေါ်သည်။ လောင်းကစားမှု၊ သောက်စား မူးယစ်မှု တို့ဖြင့် ပျော်ရွှင်တတ်၍ သူ၏ ဇနီးမှာ ဘို့မယ်ဟု ခေါ်တွင်သည်။

တရုပ်ပြည်မှ အနော်ရထာမင်း အပြန် တောင်ပြုံးအရပ်၌ ဆုတောင်းပြည့်ဘုရား တည်နေစဉ် အခါ ရွှေဖျဉ်းညီနောင် နှစ်ပါးတို့ကို ဦးသာနီးက သင်ကြားပေး၍ မင်းညီနောင် နှစ်ပါး သောက်စား ပျော်ပါးလွန်ကာ အမှုထမ်း လစ်ဟင်းသောကြောင့် ကွပ်မျက်ခံရခြင်း ဖြစ်သည်။

ယင်းကဲ့သို့ "မင်းနှစ်ပါးမှာ ငါ့ကြောင့်သာ ကွပ်မျက်ခံရလေခြင်း" ဟု ဦးသာနီးသည် စိတ်ညစ်ကာ အသောက်လွန်ပြီး သေဆုံး၍ နတ်ဖြစ်သည်။ အချို့ မှတ်တမ်းများ၌ မင်းနှစ်ပါးနှင့် အတူ ဦးသာနီးပါ ရောပြီး ကွပ်မျက်ခံရသည်ဟု ဆိုထားသေးသည်။

တောင်ပြုံး၌ စာရေးတော်ကြီး နတ်မှာ သီးခြားနတ်ကွန်း မရှိပေ၊ သို့သော် နတ်ဘဝတွင် မင်းနှစ်ပါးနှင့် အတူနေပြီး ဝတ္တရားကို ဆောင်ရွက်နေသည်ဟု ဆိုသည်။

### (၉) ဂူတော်ရှင်မ နတ်

မန္တလေးဘိုးတော်၏ နမအထွေး ဖြစ်သည်။ ဘိုးတော်နှင့် အမကြီး ရှင်ကွတို့ကို မန္တလေး အရပ်၌ ကွပ်မျက်ခံရပြီးနောက် လွမ်းဆွတ် ကြေကွဲ၍ သေဆုံးပြီး နတ်ဖြစ်သည်။

ဤ ပုပ္ပားမယ်တော်မှ စ၍ ဂူတော်ရှင်မအထိ နတ်များကား ရွှေဖျဉ်းညီနောင်နှင့် တဆက်တည်း နတ်ဖြစ်ကြသော်လည်း အပြင် ၃၇ မင်း နတ်စာရင်းတွင် မပါဝင်ခဲ့ကြပေ။

သို့သော်လည်း နတ်ထိန်း နတ်ကတော်များက နတ်ကန္နား ပြုလုပ်ကြသောအခါ (၁) ပုပ္ပားမယ်တော် နတ်၊ (၂) ခင်မသာ ခေါ် မယ်ခေမာ နတ်၊ (၃) တောင်တော်သခင်မ ခေါ် မရွှေဥ နတ်၊ (၄) မစောခင် နတ်တို့အတွက် သီးသန့် ပွဲဆက် ပသကြသည့် အစဉ်အလာ ရှိသည်။

(၇)

## ကိုးမြို့ရှင် နှင့်

## ကွင်းဆက် နတ်များ

### နတ် ၁၀ ပါး

ကိုးမြို့ရှင်သည် အပြင် ၃၇ မင်းတွင် မပါဝင်ပေ၊ သို့သော် တောင်ပြုံးတွင် နာမည်ကြီး နတ်များတွင် ပါဝင်လျက် ရှိသည်။ နတ်သမိုင်းတွင် ကိုးမြို့ရှင်နှင့် တဆက်တည်း ကွင်းဆက် ဖြစ်ခဲ့ကြသော နတ်များမှာ ၁၀ ပါး ရှိသည်။ ယင်းတို့မှာ -

၁။ မင်းလုစည်သူ (ပန်းတောင်းပြည် ဘုရင်)

၂။ ကူနီဒေဝီ (၎င်း၏ မိဖုရားကြီး)

၃။ ကိုးမြို့ရှင် (၎င်းတို့၏ သားတော် အိမ်ရှေ့မင်း)

၄။ ပုလဲယဉ် (၎င်းတို့၏ သားတော် ပင်တိုင်စံ)

၅။ ခွန်ချို (ကိုးမြို့ရှင်နှင့် ပုလဲယဉ်တို့၏ မွေးစားသား ရှမ်းမင်းသား





၆။ ခွန်သာ နှစ်ပါး)

၇။ မောင်လတ် (ပုလဲယဉ်၏ ခင်ပွန်း)

၈။ သဲသဲလေး (၎င်းတို့၏ သမီး)

၉။ ဦးမင်းကျော် (ပုခန်းမြို့စား)

၁၀။ ဦးညို ခေါ် ဘဘညို (ဦးမင်းကျော်၏ အိမ်တော်ဝန်)

တို့ ဖြစ်ကြသည်။ ၎င်းတို့၏ အတ္တုပတ္တိ သမိုင်းမှာ စိတ်ဝင်စားစရာလည်း ကောင်းသလောက် မှုကွဲများလည်း ရှိသည်။

### ကိုးမြို့ရှင်နှင့် ပုလဲယဉ်

ပန်းတောင်းပြည် ဘုရင် မင်းလုစည်သူနှင့် မိဖုရားကြီး ကူနီဒေဝီတို့တွင် သားတော် ကိုးမြို့ရှင်နှင့် သမီးတော် ပုလဲယဉ်ဟု ရှိသည်။ ကိုးမြို့ရှင်မှာ ကိုးမြို့၊ ကိုးတံခါး၊ ကိုးဖလားနှင့် ကိုးဓား ပိုင်သော အိမ်ရှေ့မင်း ဖြစ်သည်။

ဘုရင် မင်းလုစည်သူသည် သူ ယုံကြည်ကိုးစားသော အထိန်းတော်ကြီး ဗလကျော်ထင် ကွယ်လွန်သွားသောအခါ ဗလကျော်ထင်၏ ကိုယ်စား ၎င်း၏ သားဖြစ်သူ ဗိုလ်မှူး မင်းကျော်စွာကို သားတော်ကြီး လေးပါးတွင် တစ်ပါးအပါအဝင် အဖြစ်ဖြင့် သူကောင်းပြုတော်မူသည်။ မင်းကျော်စွာမှာ မြင်းစီးကောင်း တစ်ဦးအဖြစ် ထင်ရှားသော ဗိုလ်မှူး ဖြစ်သည်။

မင်းကျော်စွာသည် ဘုရင့်သားတော်အဖြစ် ရောက်ရှိချိန်မှ စ၍ ဦးညို ဆိုသူကို အိမ်တော်ဝန် ခန့်ထားကာ သောက်စား မူးယစ်မှု၊ လောင်းကစားမှု၊ မိန်းမမှုများနှင့်သာ အမြဲ ပျော်ပါးမူးယစ်လျက် ရှိသည်။

## ခွန်ချို၊ ခွန်သာ

တစ်နေ့သောအခါ ရှမ်းပြည် မိုင်းပြင်စော်ဘွား စောခွန်ကြည်ကို ကျိုင်းတောင်းစော်ဘွား စောသီဟက ချီတက် တိုက်ခိုက်လာသည်။ စောခွန်ကြည်မှာ မင်းလှစည်သူ၏ ရာဇ မဟာမိတ်လည်း ဖြစ်၊ သစ္စာတော်ခံလည်း ဖြစ်သည့်အတိုင်း စောခွန်ကြည်ဖက်မှ ကူညီ တိုက်ခိုက်ရန်အတွက် အိမ်ရှေ့မင်း ကိုးမြို့ရှင်နှင့် ဗိုလ်မှူး မင်းကျော်စွာတို့ ဦးစီးကာ ရှမ်းပြည်သို့ ချီတက်သွားကြသည်။ သို့သော် ၎င်းတို့ မရောက်လာမီမှာပင် စောသီဟ လက်ချက်ဖြင့် စောခွန်ကြည်မှာ ကျဆုံးနေခဲ့ပြီ ဖြစ်သည်။ ထို့ကြောင့် မိုင်းပြင်းနယ်ကို ဆိုင်ရာ ရှမ်းမှူးမတ်များအား အုပ်ချုပ်ရန် လွှဲအပ် ထားခဲ့ပြီးနောက် စောခွန်ကြည်၏ လူမမယ် သား ၂ ယောက် ဖြစ်သော ခွန်ချိုနှင့် ခွန်သာတို့ကို ပန်းတောင်း နေပြည်တော်သို့ ခေါ်ဆောင်လာခဲ့ကြသည်။ ဘုရင်ဖြစ်သူ မင်းလှစည်သူကိုလည်း ဖြစ်ကြောင်းကုန်စင် သံတော်ဦးတင်ကြသည်။

ထိုအခါ ဘုရင် မင်းလှစည်သူက ခွန်ချို နှင့် ခွန်သာတို့ကို သားဖြစ်သူ ကိုးမြို့ရှင်နှင့် သမီးဖြစ်သူ ပုလဲယဉ်တို့အား သားအမှတ်ဖြင့် တစ်ယောက်စီ မွေးစားရန် ပေးအပ်လိုက်သည်။ မင်းကျော်စွာကမူ ခွန်ချိုနှင့် ခွန်သာတို့ကို ရှမ်းပြည်မှ ခေါ်ဆောင်လာခဲ့ရသူများ ဖြစ်ကြသော သူနှင့် ကိုးမြို့ရှင်တို့ကိုသာ မွေးစားရန် ပေးအပ်သင့်သည်ဟု ယူဆကာ ဘုရင်ကြီးအပေါ် ရန်ညိုး ထားခဲ့သည်။

## ပုခန်း ဦးမင်းကျော်

စင်စစ် သူ့အား မွေးစားရန် မပေးအပ်ခြင်းမှာလည်း အကယ်၍ ပေးအပ်ပါက မင်းကျော်စွာ မွေးမည့်သူမှာ အကျင့်စာရိတ္တ ပျက်ပြားမည် စိုးရိမ်သောကြောင့် ဖြစ်သည်။ ယင်းသို့ မွေးစားရန် မပေးသော်လည်း မင်းကျော်စွာအား ဆုတော်၊ လာဘ်တော် အနေဖြင့် ပုခန်းမြို့ကို အပိုင်စား သနားတော်မူသည်။ ထိုအခါမှ စ၍ "ပုခန်း မင်းကျော်စွာ" ဟူ၍ လည်းကောင်း၊ "ပုခန်း ဦးမင်းကျော်" ဟူ၍ လည်းကောင်း ခေါ်တွင်ခဲ့သည်။

ယင်းသို့ ပုခန်းမြို့ကို အပိုင်စား ပေးသနားခြင်း ခံရသော်လည်း မင်းကျော်စွာသည် ခွန်ချို၊ ခွန်သာ အတွက် ရှက်လည်း ရှက်၊ စိတ်လည်း နာကာ ဘုရင်ကြီးအား ရန်ညိုးထားပြီး ထီးနန်းလုယူ၍ ပုလဲယဉ်ကိုပင် မိဖုရားမြှောက်ရန် ကြံစည်ခဲ့သည်။

သို့ဖြင့် ခွန်ချို၊ ခွန်သာသည် အရွယ်ရောက်လာခဲ့သည်။ ဤတွင် ဦးမင်းကျော်သည် ခွန်ချို၊ ခွန်သာ ရှိပါက သူ၏ အကြံအစည်အတွက် အနှောင့်အယှက် ဖြစ်မည် စိုးသောကြောင့် သူ၏ အပေါင်းအဖော်များနှင့် တိုင်ပင်ကာ "ရှမ်းပြည်၌ သူပုန်ထနေကြောင်း၊ ခွန်ချို၊ ခွန်သာကို စေလွှတ် နှိမ်နင်းသင့်ကြောင်း၊ နှိမ်နင်းပြီးနောက် ရှမ်းပြည် ငြိမ်ဝပ်ပိပြားရေး အတွက် ခွန်ချို၊ ခွန်သာကိုပင် ရှမ်းပြည်၌ သုံးနှစ် အုပ်ချုပ် နေထိုင်သင့်ကြောင်း" ဖြင့် ဘုရင်ကြီးအား ဦးမင်းကျော်က ယုံကြည်အောင် လျှောက်ထား သံတော်ဦးတင်ခဲ့သည်။

ဘုရင်ကြီးလည်း ယုံကြည်ကာ ခွန်ချို၊ ခွန်သာကို ရှမ်းပြည်သို့ စေလွှတ်ခဲ့သည်။ ခွန်ချို၊ ခွန်သာတို့ ရှမ်းပြည်ရောက်သော အခါ၌ သူပုန်သူကန်များကို မတွေ့ရဘဲ ရှမ်းပြည် အေးချမ်း သာယာလျက် ရှိသည်ကိုသာ တွေ့ရှိနေရသည်။ သို့သော် ဘုရင်၏ အမိန့်အတိုင်း ခွန်ချို၊ ခွန်သာတို့မှာ ရှမ်းပြည်၌ သုံးနှစ် အုပ်ချုပ် နေထိုင်ခဲ့ကြသည်။

ခွန်ချို၊ ခွန်သာတို့ မရှိသည့်နောက် တစ်နေ့သော ညတစ်ညတွင် ဦးမင်းကျော်နှင့် သူ၏ အပေါင်းအသင်း၊ ရောင်းရင်းတို့သည် ဘုရင်ကြီး မင်းလှစည်သူနှင့် မိဖုရားကြီး ကူနီဒေဝီတို့ကို လုပ်ကြံ သတ်ဖြတ်ကာ ထီးနန်းကို စိုးစံခဲ့ပေသည်။

ထိုအခါ အိမ်ရှေ့မင်း ဖြစ်သူ ကိုးမြို့ရှင် ကိုယ်တော်ကြီးမှာ နမတော် ပုလဲယဉ်ကို ထမ်းကာ လက်လွတ် ထွက်ပြေးခဲ့ရပြီးနောက် သူ့ခမည်းတော်၏ မိတ်ဆွေဟောင်း ဖြစ်သူ ကျောက်ထပ်ရွာ သူဌေးကြီး ဦးသာမြတ် အိမ်၌ မထင်မရှား ဆင်းရဲသား အသွင်ဖြင့် နေထိုင်ခဲ့ကြရသည်။

ကာလ အတန်ကြာသော် ကိုးမြို့ရှင် ကိုယ်တော်ကြီးသည် ပုလဲယဉ်ကို သူဌေးကြီး ဦးသာမြတ်ထံ အပ်နှံထားခဲ့ပြီးနောက် တိုင်းပြည် အရေးအခင်းကိုလည်း စနည်းနာလို၍ လည်းကောင်း၊ ခွန်ချို၊ ခွန်သာကိုလည်း ရှာဖွေလို၍ လည်းကောင်း ရုပ်ဖျောက်ပြီး ရှမ်းလူမျိုး ဝတ်စုံကို ဝတ်ဆင်ကာ ထွက်ခွာခဲ့သည်။

ကိုးမြို့ရှင် ကိုယ်တော်ကြီး မရှိသည့်နောက် ပုလဲယဉ် ထိပ်ထားနှင့် သူဌေးကြီး ဦးသာမြတ်၏ သား မောင်လတ်တို့မှာ မေတ္တာသက် ရည်ငံကြရာ သမီးကလေး တစ်ယောက်ပင် မွေးဖွားခဲ့သည်။ မိဘနှစ်ပါးနှင့် အဘိုးအဘွားများက အသဲစွဲ ချစ်ခင်ကြသဖြင့် "သဲသဲကလေး" ဟု အမည် ပေးခဲ့ကြသည်။

ထို့နောက် ခွန်ချို၊ ခွန်သာတို့ တိုင်းပြည် ပြန်ရောက်လာသောအခါ ဦးမင်းကျော်က "ထီးနန်းကို လုပ်ကြံ လုယူရခြင်းသည် ခွန်ချို၊ ခွန်သာတို့ အတွက်သာ ဖြစ်ကြောင်း၊ မိမိအနေဖြင့် အသက်အရွယ် အိုမင်းပြီဖြစ်၍ ဥပုသ်ဆောင်ဝင်ကာ တရားအားထုတ်တော့မည် ဖြစ်ကြောင်း" အယုံသွင်း ပြောဆိုကာ ခွန်ချို၊ ခွန်သာကို ထီးနန်း တင်ပေးခဲ့သည်။ တဆက်တည်းမှာပင် "ဦးမင်းကျော် ခိုင်းသမျှ လုပ်ပါမည်" ဟုလည်း ခွန်ချို၊ ခွန်သာတို့အား သစ္စာရည် တိုက်ခဲ့သည်။



ထီးနန်းလည်း လွှဲ၊ သစ္စာရည်လည်း တိုက်ပြီးသည့် နောက်ပိုင်း၌ "ကိုးမြို့ရှင်ကို ရှာဖွေ၍ ဦးခေါင်းဖြတ် ဆက်သရန်" ဦးမင်းကျော်က ခွန်ချို၊ ခွန်သာတို့အား အမိန့်ပေးလေတော့သည်။ သူ၏ သစ္စာရည်ကို သောက်ထားမိပြီ ဖြစ်သော ခွန်ချို၊ ခွန်သာတို့ကလည်း ကိုးမြို့ရှင်ကို မရမက လိုက်လံ ရှာဖွေရတော့ရာ တောတစ်ခု၌ သွားတွေ့ခဲ့ကြသည်။

သို့သော် ခွန်ချို၊ ခွန်သာတို့ အနေဖြင့် သူတို့၏ မွေးစားဖခင် ဖြစ်သော ကိုးမြို့ရှင် ဦးခေါင်းကို မဖြတ်ရက်ကြပေ။ သို့အတွက် ကိုးမြို့ရှင်က သစ္စာအဓိဋ္ဌာန် ပြုကာ သူ၏ ဦးခေါင်းကို သူကိုယ်တိုင် ဖြတ်ပြီး ခွန်ချို၊ ခွန်သာတို့အား ပေးလိုက်သည်။

ခွန်ချို၊ ခွန်သာတို့သည် ငွေးချိုတောင် စကားဝါပင် စခန်း၌ ခေတ္တ တဲနန်းဖြင့် အသင့် စောင့်ဆိုင်းလျက်ရှိသော ဦးမင်းကျော်ထံ ကိုးမြို့ရှင်၏ ဦးခေါင်းကို သွားရောက် ဆက်သကြသည်။ ယင်းသို့ ဆက်သစဉ် အလျင်က ကြိုတင် စီမံထားသည့်အတိုင်း ဦးမင်းကျော်သည် ခွန်ချို၊ ခွန်သာတို့ကို ဖမ်းဆီးပြီး မီးတိုက် သတ်ပစ်လိုက်ရာ အစိမ်းနတ်များ ဖြစ်ခဲ့ကြရသည်။

ဤတွင် အစိမ်းနတ် ဖြစ်သွားကြရပြီ ဖြစ်သော ခွန်ချို၊ ခွန်သာတို့ကလည်း စကားဝါပင်ကို လှဲချလိုက်ရာ ဦးမင်းကျော်နှင့် သူ၏ အိမ်တော်ဝန် ဦးညိုတို့ စကားဝါပင် ပိ၍ သေဆုံးကြပြီး နတ် ဖြစ်ခဲ့ကြသည်။ အချို့ မှတ်တမ်းများ၌မူ အစိမ်းနတ် ခွန်ချို၊ ခွန်သာတို့က ကျားနှင့် တိုက်သတ်သောကြောင့် ဦးမင်းကျော် သေဆုံး၍ နတ်ဖြစ်ခဲ့သည်ဟု တွေ့ရှိရသည်။

ထို့နောက် ကိုးမြို့ရှင် နတ်ဘဝဖြင့် နမဖြစ်သူ ပုလဲယဉ်အား သွားရောက် ကြည့်ရှုသောအခါ ပုလဲယဉ်မှာ အိမ်ထောင်ရှင်ဘဝ ရောက်နေရုံမကဘဲ သမီးတစ်ယောက်ပင် ရရှိနေပြီကို တွေ့ရှိရသဖြင့် စိတ်ထိခိုက်သွားသည်။ စိတ်ထိခိုက်သွားခြင်းမှာ ကိုးမြို့ရှင်နှင့် ပုလဲယဉ်တို့မှာ "အကို တစ်သက်၊ နမတစ်သက်၊ အိမ်ထောင်ဘက် မရှာဘဲ လူပျို အပျို ဘဝဖြင့် နေကြစတမ်း" ဟု ကတိသစ္စာ

ပြုထားခဲ့သောကြောင့် ဖြစ်သည်။ ယင်းသို့ စိတ်ထိခိုက်သွားသောကြောင့်လည်း ကိုးမြို့ရှင်သည် ပုလဲယဉ်အား လူ့ဘဝတွင် မထားတော့ဘဲ လိပ်ပြာနှုတ်ယူကာ နတ်ဘဝသို့ ခေါ်ဆောင်သွားခဲ့သည်။

ပုလဲယဉ်သည် နတ်ဘဝသို့ ရောက်ရှိသွားသော်လည်း သမီးကလေးကို မခွဲနိုင်သောကြောင့် ကြောင်ယောင်ဆောင်ပြီး ပုခက်တွင်းသို့ ခုန်ချလိုက်ရာ သမီးဖြစ်သူ သဲသဲကလေးမှာ လန့်ဖြန့် သေဆုံး၍ နတ်ဖြစ်ခဲ့သည်။ ၎င်းကို သဲသဲကလေးဟု လည်းကောင်း၊ မသဲကလေးဟု လည်းကောင်း ခေါ်ဝေါ်ခဲ့ကြသည်။

ပုလဲယဉ်၏ ခင်ပွန်းဖြစ်သူ မောင်လတ်မှာလည်း ဇနီးနှင့် သမီး သေဆုံး၍ ရင်ကွဲနာကျပြီး သေဆုံးကာ နတ်ဖြစ်ခဲ့ပြန်သည်။

ထို့နောက် မင်းလုစည်သူနတ်က ကိုးမြို့ရှင်မှာ လူ့ဘဝတုံးက ကိုးမြို့၊ ကိုးတံခါး၊ ကိုးဖလားနှင့် ကိုးဓား ပိုင်သော အိမ်ရှေ့စံ ကိုယ်တော်ကြီး ဖြစ်သည့်အတိုင်း နတ်ဘဝ ရောက်လာသောအခါ၌လည်း ပြည်သူပြည်သား လူအများ ဘေးအန္တရာယ် မကပ်ရောက်ရအောင် ကာကွယ်စောင့်ရှောက်နိုင်ရန် မြို့ရွာ စောင့်ကြပ်သော နတ်အဖြစ် လည်းကောင်း၊ ပုလဲယဉ်၊ မောင်လတ်၊ သဲသဲကလေးနှင့် ခွန်ချို၊ ခွန်သာတို့ကိုလည်း ကိုးမြို့ရှင်၏ အခြွေအရံများ အဖြစ်ဖြင့် လည်းကောင်း၊ နေထိုင်ကြစေရန် အမိန့် ချမှတ် ပေးအပ်ခဲ့သည်။

ထို့ကြောင့် ကိုးမြို့ရှင်ကို မြို့ရွာများအား စောင့်ကြပ်နေသော မြို့စောင့်နတ် ဖြစ်သည်ဟု ယူဆကြသည်။

ကိုးမြို့ရှင်နှင့် တဆက်တည်း ကွင်းဆက်ဖြစ်ခဲ့ကြသော အထက်ပါ နတ် ၁၀ ပါး အနက် မင်းကျော်စွာ ခေါ် ပုခန်း ဦးမင်းကျော်မှတပါး အခြား နတ်များမှာ အပြင် ၃၇ မင်း နတ်စာရင်းတွင် မပါဝင်ခဲ့ပေ၊ သို့သော်လည်း နတ်ထိန်း၊ နတ်ကတော်များက နတ်ကန္နားဆက် ပွဲပေးသော အခါများ၌ ၎င်းတို့အတွက် ပွဲဆက် ပသကြလေ့ ရှိကြသည်။ အချို့ အိမ်များ၌လည်း ကိုးမြို့ရှင်ကို ရည်စူးပြီး ရှမ်းဘောင်းဘီနက်၊ ပျော့ခမောက်၊ ဓားလွယ်များ ဆက်သထားတတ်ကြသေးသည်။

ဦးမင်းကျော်မှာ လူ့ဘဝတုံးက ပုခန်းမြို့ကို အပိုင်စားရသည့် အတိုင်း နတ်ဖြစ်သော အခါ၌လည်း ပုခန်း ဦးမင်းကျော်ဟု ထင်ရှားခဲ့သည်။

## (၈)

## မြင်းဖြူရှင်နတ်လေးမျိုး

မြင်းဖြူရှင် နတ် အမည်ဖြင့် သမိုင်း မှတ်တမ်းများတွင် လေးမျိုး တွေ့ရှိရသည်။ ယင်းတို့မှာ -

၁။ ယမား မြင်းဖြူရှင် နတ်

၂။ ကန္ဒီ မြင်းဖြူရှင် နတ်

၃။ ရွှေပြည်ရှင် မြင်းဖြူရှင် နတ်

၄။ ရွှေစစ်သင် မြင်းဖြူရှင် နတ် တို့ ဖြစ်ကြသည်။

### (၁) ယမား မြင်းဖြူရှင် နတ်

ပုပ္ပားနယ်၌ ယမားချောင်းဟု နာမည်ကြီး ချောင်းတစ်ခု ရှိသည်။ နာမည်ကြီးခြင်းမှာ ဆင်တဲဝခေါ် ယမားချောင်းထဲသို့ ပုပ္ပားနယ်ရှိ ၉၉ ချောင်း ပေါင်း၍ စီးဆင်းနေကျ ဖြစ်ရာ ချောင်းရေယဉ်သည် အရှိန်အဟုန် ကြမ်းတမ်းလှသည်။ ပုပ္ပားတောင်ဆီ၌ မိုးညိုလာလျှင် ယမားချောင်းကို ခြေလျင်မဆိုထားဘိ မြင်းနှင့်ပင် အတင်း ဒုန်းစိုင်းပြီး ဖြတ်သန်း မကူးဝံ့ကြပေ၊ အကယ်၍ ဖြတ်သန်း ကူးမိပါက ယမားချောင်း ရေယဉ်ကြော၌ နစ်မျော ပျက်စီးသွားမည်မှာ ကျိန်းသေနေပေသည်။ ဤမျှလောက် ချောင်းရေယဉ်၏ အရှိန်အဟုန်က ကြမ်းတမ်းလှပေသည်။

ပုဂံနယ် ၉၉ ရွာတွင် မြင်းစီးအတတ်၌ ပြိုင်ဘက် မရှိအောင် အတော်ဆုံး၊ အကောင်းဆုံး ဖြစ်သဖြင့် "မြင်းသည်ကျော်- မြင်းသည်လှ" ဘွဲ့ ရသော မြင်းကုန်သည်မှူးကြီး ဖိုးကျော်လှ ဆိုသူ ရှိသည်။ တစ်နေ့တွင် ဖိုးကျော်လှသည် လူအချို့တို့နှင့် အလောင်းအစားပြုပြီး ပုပ္ပားတောင်ဆီ၌ မိုးညိုနေစဉ် သူ၏ အပြေးလျင်လှသော နာမည်ကျော် မြင်းဖြူကြီးကို စီးကာ "၉၉ ချောင်း ပေါင်း၍ စီးကျ ဆင်တဲဝ၊ ၉၉ ရွာ ရှာမရ မြင်းသည်ကျော်- မြင်းသည်လှဟေ့" ဟု ကြိမ်းဝါးကာ မြင်းကို ကြိမ်သွင်းပြီး ယမားချောင်းကို အတင်း ဒုံးစိုင်း ဖြတ်ကူးသည်။

ထိုအခါ မြင်းခွာ လေးဘက် ရှိသည့်အနက် သုံးဘက် လွတ်ပြီး ခွာတဘက်မှာ အထက်မှ စီးကျလာသော ယမားချောင်းရေ မလွတ်သောကြောင့် မြင်းရောလူပါ လိမ့်ကျပါသွားပြီး ရေနစ်သေဆုံး၍ မြင်းဖြူရှင် နတ် ဟု ဖြစ်လာသည်။ ၎င်းကို ယမား မြင်းဖြူရှင် ဟု ခေါ်သည်။ အချို့က အညာနတ် ဟုလည်း ခေါ်ကြသေးသည်။ မည်သည့် ခေတ်၊ မည်သည့် မင်းလက်ထက်ဟု တိတိကျကျ မှတ်တမ်း၌ မတွေ့ရပေ။

### (၂) ကန္ဒီ မြင်းဖြူရှင် နတ်

အိန္ဒိယနိုင်ငံ ရာဇဂြိုဟ်ပြည် အဇာတသတ်မင်း လက်ထက် ၎င်း၏ အဆက်အနွယ်တော် မင်းတစ်ပါးသည် ရာဇဝတ် အပြစ်ဒဏ်ဖြင့် နှင်ထုတ်ခံရရာ မြန်မာနိုင်ငံ ချင်းတွင်းနယ် ကလေးအရပ်သို့ ရောက်ရှိလာသည်။ ကလေးအရပ်မှာ တောင်များဖြင့် ပတ်ဝိုင်း ကာရံလျက် ရှိရာ

ရာဇဂြိုဟ်ပြည်နှင့် တူသောကြောင့် ယင်းအရပ်၌ မြို့တည် နေထိုင်ကာ ကလေးတောင်ညို ရာဇဂြိုဟ်ဟု သမုတ်ခဲ့သည်။

၎င်း၏ မြေး ဖိုးမင်းဖြူကို တောင်ဖက် ကန္နီအရပ်သို့ လွှတ်၍ မြို့တည်ခိုင်းရာ ဖိုးမင်းဖြူသည် ချင်းတွင်းမြစ်ကမ်းပါး တောင်ထိပ်ပေါ်၌ မြို့တည် နေထိုင်ခဲ့သည်။

ယင်းအကြောင်းကို ပုဂံမင်းက ကြား၍ လာရောက် တိုက်ခိုက်သည်။ ထိုအခါ ပုဂံမင်း စစ်ရှုံး၍ လှည့်ပြန်သွားစဉ် ဖိုးမင်းဖြူ၏ မြို့သူ အမျိုးသမီး တစ်ဦးက ပြောင်လှောင်ပြီး ဖင်ကုန်းပြသည်။

ယင်းသို့ ပြသည်ကို ပုဂံမင်း စစ်သည်တော်တို့က နိမိတ်ကောင်းသည်ဟု ယူဆပြီး ပြန်လှည့်တိုက်လေလျှင် ဖိုးမင်းဖြူဖက်မှ အရေး ရှုံးနိမ့်ခဲ့ရသည်။

ဤတွင် ဖိုးမင်းဖြူသည် ရန်သူ၏ လက်သို့ မပါလိုသောကြောင့် ၎င်း၏ အချွေအရံများနှင့်တကွ မြင်းကိုယ်စီ စီးကြကာ မြင်းခေါင်း မျက်စေ့တို့ကို ၎င်းတို့ ဝတ်ဆင်ထားသော ပုဆိုး အိတ်ထောင်စသည်တို့ဖြင့် ဖုံးအုပ်ပြီး တောင်ကမ္ဘားထိပ်မှ ချင်းတွင်းမြစ်တွင်းသို့ မြင်းနှင့် ဒုံးစိုင်း ခုန်ချရာ အနိစ္စရောက်ပြီး နတ်ဖြစ်သည်။

ကန္နီနယ်က ၎င်းကို ဖိုးမင်းဖြူ နတ်၊ မြင်းဖြူရှင် နတ်၊ ရွှေမြင်းဖြူ နတ်ဟု အမည် အမျိုးမျိုးဖြင့် ခေါ်ဝေါ်ကြသည်။ ပုဂံမင်း၏ အမည်နှင့် ခုနှစ် သက္ကရာဇ်တို့ကိုကား တိတိကျကျ မသိရပေ။

သို့သော် အလောင်းစည်သူမင်းကြီး တိုင်းနိုင်ငံ လှည့်လည်လာ၍ ထိုအရပ်သို့ ရောက်သောအခါ ဖိုးမင်းဖြူနှင့်တကွ အချွေအရံများက အစိမ်းနတ် ဘဝနှင့် မြင်းကိုယ်စီ စီးပြီး တောင်ထိပ်ပေါ်မှ ကိုယ်ထင်ပြကာ သူတို့၏ ဘဝဖြစ်စဉ်ကို ပြောပြကြသည်။ ထိုအခါ အလောင်းစည်သူ မင်းကြီးက နတ်ကွန်း၊ နတ်နန်း ဆောက်လုပ်ပေးကာ နယ်ပယ် သတ်မှတ်အပိုင်စား ပေးထားခဲ့သည်ဟု မှတ်တမ်းရှိသဖြင့် အလောင်းစည်သူမင်း မတိုင်မီကဟု အကြမ်းဖျင်း သိရှိနိုင်ပေသည်။

ယင်း ကန္နီ မြင်းဖြူရှင်၏ အတ္ထုပ္ပတ္တိ သမိုင်းကို မြန်မာ့ စွယ်စုံကျမ်း အတွဲ (၁) ၌ ဤသို့ တစ်မျိုး ဖော်ပြထားသည်။

ပုဂံပြည် အနော်ရထာမင်း လက်ထက် ကန္နီမြို့၌ ကန္နီနော်ရထာဘွဲ့နှင့် မြို့စားတစ်ဦး ခန့်ထား အုပ်ချုပ်စေခဲ့သည်။ တစ်ရံရောအခါ ကန္နီနော်ရထာ ထကြွ ပုန်ကန်သောကြောင့် ဘုရင့် တပ်သားများက လိုက်လံ တိုက်ခိုက်ရာ ကန္နီနော်ရထာသည် ကုန်းမြင့်ပေါ်မှ သူ၏ မြင်းဖြူကို ကဆုန်ချ စီးပြီးလျှင် မြစ်တွင်းသို့ ဆင်းကာ မိမိကိုယ်ကို အဆုံးစီရင်လိုက်ရာ နတ်ဖြစ်ခဲ့သည်။ အပြင် ၃၇ မင်းတွင် ပါဝင်လျက် ရှိသော မြင်းဖြူရှင် နတ်မှာ ဤ ကန္နီနော်ရထာပင် ဖြစ်သည်။ ဤကား မြန်မာ့ စွယ်စုံကျမ်း၏ အဆို ဖြစ်သည်။

မည်သို့ပင် ဖြစ်စေ ကန္နီမြို့နယ်ကမူ ဤ ဖိုးမင်းဖြူ နတ် သို့မဟုတ် မင်းဖြူရှင် နတ် သို့မဟုတ် ရွှေမြင်းဖြူ နတ်ကို အလွန် ခန့်ညားရိုသေကြသည်။

## (၃) ရွှေပြည့်ရှင် မြင်းဖြူရှင် နတ်

ပုဂံခေတ် မင်းယဉ်နရသိင်္ခ (၅၃၃- ၅၃၆) လက်ထက် မြင်းစိုင်း ဝက်ဝင် အရပ်မှ ပြော့ လူမျိုးများသည် တောသို့ ထင်းခုတ်သွားရာတွင် ဝါးလုံးကြီး တစ်ခုအတွင်းမှ ရုပ်ဆင်းအင်္ဂါ လက္ခဏာနှင့် ပြည့်စုံသော သန္ဓေသူ မိန်းကလေး တစ်ယောက်ကို ရရှိကြသည်။ ပြော့ လူမျိုးများသည် ယင်း မိန်းခလေးကို ပုဂံဘုရင် မင်းယဉ်နရသိင်္ခအား ဆက်သကြရာ မင်းကြီးက နားပျက်ကျယ်သည်ဟု ဆိုကာ သူ၏ ညီတော် နရပတိစည်သူအား ပေးသည်။

မယ်တော် မိဖုရားကြီးက ယင်း မိန်းခလေးကို ဝေဠုဝတီဟု အမည်ပေးကာ နားပျက်ကျယ် နေသည်ကိုလည်း ကြည့်ကောင်းအောင် ဖြတ်တောက် ပြုပြင်ပေးခဲ့သည်။

တစ်နေ့တွင် မယ်တော် မိဖုရားကြီးသည် ချွေးမတော် ဝေဠုဝတီကို ခေါ်၍ နန်းတော်တွင်း ဝင်သွားသောအခါ မင်းယဉ်နရသိခ်သည် ယခင်ကနှင့် မတူ တစ်မူထူးခြား လှပနေသော ခယ်မတော် ဝေဠုဝတီအပေါ် တပ်မက် ချစ်ကြိုက်စိတ် ဖြစ်ပေါ်လာသည်။ ထို့ကြောင့် ညီတော် နရပတိ စည်သူအား "အထက်အညာ ငဆောင်ချမ်း အရပ်၌ သူပုန်များ ထကြွ သောင်းကျန်းနေ၍ ညီတော် ထွက်ပြီး နှိမ်နင်းရမည်" ဟု လည်ဆယ်ကာ စစ်ချီ ခိုင်းလိုက်သည်။

သို့သော် နရပတိစည်သူက သူ့နောင်တော်၏ မရိုးသားမှုကို သံသယ ရှိသဖြင့် မြင်းခံ ငပြည့်အား သူ၏ မြင်းသူတော်ကို အပ်ခဲ့ပြီး "ငါ၏ အိမ်တော်မှာ မှုခင်း ကိစ္စထူး တစ်စုံတစ်ရာ ရှိပါက အလျင်အမြန် လိုက်လာခဲ့ရမည်" ဟု မှာထားကာ စစ်ထွက်ခဲ့သည်။

သစ်ဆိမ့်ရွာသို့ ရောက်သောအခါ ငဆောင်ချမ်းမှာ သူပုန် မထကြွကြောင်း ကြားရသဖြင့် သူ၏ နောင်တော် မကောင်းကြံမှန်း သိရှိကာ စစ်သည်တော် တပ်သားများအား သွေးစည်းခဲ့သည်။

သစ်ဆိမ့်သို့ ညီတော် နရပတိစည်သူ ရောက်ကြောင်း ကြားလျှင် မင်းယဉ်နရသိခ်သည် ခယ်မတော် ဝေဠုဝတီကို အတင်း သိမ်းပိုက် မိဖုရားမြှောက်လေသည်။

ထိုအခါ မြင်းခံ ငပြည့်သည် နံနက် အရုဏ်တက် အချိန်တွင် မြင်းသူတော်ကို စီးပြီး ခရီးပြင်း နှင်ခဲ့ရာ မွန်းမတည့်မီတွင် ပရိမ္မရွာသို့ ရောက်ရှိခဲ့သည်။

၎င်းမှ တစ်ဖန် ဟန်လင်းကို မောင်းခဲ့ရာ ငါးဘတ်ချောင်းကို နေဝင်ရီတရောအချိန် ရောက်ရှိခဲ့သည်။ ထိုအခါ မြင်းတော်လည်း ပင်ပန်းလှသောကြောင့် လည်းကောင်း၊ လင်းလပ်ကို ရေထင်မှတ်သောကြောင့် လည်းကောင်း ချောင်းနံဘေး တောင်ခြေ၌ အပန်းဖြေ အိပ်နေခဲ့သည်။





သို့သော် မြင်းသူတော်မှာ ချောင်းကမ်း တစ်ဖက်၌ ရှိသော သူ၏ သခင် နရပတိစည်သူ၏ အနံ့ကို ရ၍ တစ်ညဉ့်လုံး ဟီ၍ နေခဲ့သည်။

မြင်းဟီသံ ကြားသောကြောင့် နရပတိစည်သူလည်း တစ်ညဉ့်လုံး စက်တော်မခေါ်နိုင်ဘဲ "ငါ့ မြင်းသူတော်၏ အသံ မှန်ပါက ဤ အုန်းတော်သည် မလွဲမသေ ပေါက်ပါစေသား" ဟု အဓိဋ္ဌာန်ပြုပြီး လက်တော်နှင့် အုန်းတော်ကို သပ်လိုက်ရာ အုန်းတော် ပေါက်သွားလေသည်။ ထိုအရပ်ကို "မလွဲအုန်းပေါက်" ဟု ယခုတိုင်အောင် ခေါ်တွင်လျက် ရှိသည်။

မြင်းခံ ငပြည့်သည် နံနက်စောစော ထလာခဲ့ရာ နရပတိစည်သူ၏ ရှေ့တော်သို့ ရောက်၍ ဖြစ်ကြောင်းကုန်စင် သံတော်ဦးတင်လေ၏၊ ထိုအခါ နရပတိစည်သူက "မောင်မင်း ညက ဘယ်မှာ အိပ်သနည်း" ဟု မေးရာ "အချိန်မလှသည်နှင့် တောင်ခြေမှာ အိပ်ပါသည် ဘုရား" ဟု သံတော်ဦး တင်လေ၏။

ဤတွင် မယားစိတ် မွန်နေသော နရပတိစည်သူက "ငါနေသော နေရာနှင့် အနီးကလေး ရောက်ကာမှ အိပ်နေရမည်လော၊ မင်းတို့ မည်သည် တစ်ခဏချင်းမှာပင် အကြံအစည်ပေါင်း မြောက်မြားစွာ ပြီးစီး အောင်မြင်နိုင်သည်ကို သင် မသိသလော" ဟု အပြစ်ဆိုကာ ငပြည့်အား သူ၏ စစ်သူကြီး ဗိုလ်အောင်စွာကို ကွပ်မျက် စေခိုင်းလိုက်ရာ အနိစ္စရောက်၍ နတ်ဖြစ်သည်။

ငပြည့်၏ အလောင်းကိုလည်း ရေ၌ မျှောလိုက်ရာ ကျွန်းတစ်ကျွန်း၌ တင်၍ နေသောကြောင့် ထိုကျွန်းမှာပင် သင်္ဂြိုလ်လိုက်သည်။ ထိုကျွန်းကို "ရွှေပြည်ရှင်ကျွန်း" ဟူ၍ လည်းကောင်း၊ ငပြည့် အိပ်သော တောင်ကို "မြင်းလှည့်တောင်" ဟူ၍ လည်းကောင်း၊ ငပြည့်အား ကွပ်မျက်သော နေရာကို "ကွပ်တော်ရာ" ဟူ၍ လည်းကောင်း ယခုတိုင် ခေါ်ဝေါ်လျက် ရှိကြသည်။ ငပြည့်နတ်ကိုလည်း မြင်းဖြူရှင် နတ် ခေါ်သည်ဟု အဆိုရှိသည်။

### (၄) ရွှေစစ်သင် မြင်းဖြူရှင်

ပုဂံခေတ် နောက်ဆုံးဘုရင် ဖြစ်သော စောမွန်နစ်မင်း (၆၈၃- ၇၃၀) လက်ထက် တိုင်းပြည် မငြိမ်မသက် ပုန်ကန် ထကြွသောကြောင့် စောမွန်နစ်မင်းက သူ၏ သားတော် ရွှေစစ်သင် (ရွှေစစ်သည် ဟုလည်း ခေါ်ကြသည်) ကို စစ်ချီတက် တိုက်ခိုက်စေသည်။ သို့သော် ရွှေစစ်သည် သည် ချီတက်တိုက်ခိုက်ခြင်း မပြုဘဲ ပေါ့လျော့စွာ ကြက်တိုက် ကစားနေသည်။ ထို့ကြောင့် ခမည်းတော်က အမျက်ထွက်၍ မြေကြီးကို တွင်းတူးပြီး ခန္ဓာကိုယ်တစ်ပိုင်း မြှုပ်နှံ၍ မြေထိပ်ခတ် အကျဉ်းချထားရာမှ အနိစ္စရောက်ပြီး နတ်ဖြစ်သည်။

ရွှေစစ်သင် နတ်သည် အထက်ဖော်ပြခဲ့သော အပြင် ၃၇ မင်း နတ်စာရင်းတွင် အမှတ် (၂၁) ၌ ဖော်ပြထားသော နတ် ဖြစ်သည်။ မဟာသဟာကျမ်း၌ ရွှေစစ်သင် နတ်ကိုပင် မြင်းဖြူရှင် နတ် ဟု ခေါ်ဆိုကြောင်း ဖော်ပြထားသည်။





## (၉)

## ရေငန်ပိုင် ဦးရှင်ကြီးနှင့် ကွင်းဆက် နတ်များ

### နတ် ၃ ပါး

ဦးရှင်ကြီးမှာ ပုဂံ ရွှေစည်းခုံဘုရား ရင်ပြင်တော်တွင် ကိုးမြို့ရှင် နတ်၊ လှိုင်းတက်သာဂရ နတ် စသည်တို့နှင့် အတူ ထုလုပ်ထားသော်လည်း အပြင် ၃၇ မင်း နတ်စာရင်း၌ မပါဝင်ပေ။ ဦးရှင်ကြီးနှင့် ကွင်းဆက် နတ်များမှာ -

၁။ ဦးရှင်ကြီး

၂။ မယ်ဖြူနတ်

၃။ အဘိုး

တို့ ဖြစ်သည်။ မယ်ဖြူနတ်မှာ ဦးရှင်ကြီးနှင့် တဆက်တည်း နတ်ဖြစ်ခဲ့သော်လည်း အဘိုးမှာ တဆက်တည်း နတ်မဖြစ်ခဲ့ပေ။ သို့သော်လည်း ဦးရှင်ကြီးကို တင်မြှောက်သော အခါ၌ အဘိုးကိုပါ တစ်ပါတည်း တင်မြှောက်လေ့ ရှိကြသဖြင့် ဤ၌ ကွင်းဆက်အဖြစ် ထည့်သွင်း ဖော်ပြလိုက်ရခြင်း ဖြစ်သည်။

**ရေချို ရေငန်**

ဦးရှင်ကြီးမှာ ရေငန်ပိုင် ဦးရှင်ကြီးဟု ထင်ရှားသည့်အတိုင်း ပင်လယ်ပိုင်း ရေငန်ဒေသ အောက်မြန်မာနိုင်ငံ တစ်ခုလုံးလိုလိုက အများဆုံး အားထား ကိုးကွယ်ကြသည်။ သို့သော် ရေချိုဒေသ အထက် မြန်မာနိုင်ငံမှလည်း ကိုးကွယ်ပသသူ အချို့ ရှိသေးသည်။

ဤစာရေးသူ၏ အဖွားလေးမှာ အညာဇာတိ ဖြစ်သော်လည်း အောက်မြန်မာနိုင်ငံ ဧရာဝတီ မြစ်ဝကျွန်းပေါ်ဒေသ အရပ်၌ အမြဲ နေထိုင်သူ ဖြစ်သည်။ သို့သော် အထက်အညာဒေသသို့ ခေတ္တခဏ ပြန်သွားသောအခါများ၌လည်း ရေငန်ပိုင် ဦးရှင်ကြီးကို တင်မြှောက် ပသလေ့ ရှိသည်။ ဤစာရေးသူ၏ အဖွားလေးကဲ့သို့ပင် အခြား ကိုးကွယ်ပသသူများကို အထက်အရပ်၌ တွေ့ရှိနေရသည်။

**ဦးရှင်ကြီး**

အောက်မြန်မာနိုင်ငံတွင် မွန်လူမျိုးများ ကောင်းစားစဉ် ခေတ်အခါက ပဲခူးနယ် စည်တီးရွာသား မောင်ရှင် (အချို့က ကစင်ရွာသားဟု ဆိုသည်) သည် ငယ်ရွယ်စဉ်ကပင် ဖခင် ဖြစ်သူ သူကြီး ကွယ်လွန် အနိစ္စရောက်ခဲ့သည်။ သူသည် စောင်းအတတ်ပညာကို ငယ်စဉ်ကပင် ထူးချွန်စွာ တတ်မြောက်ခဲ့သူ ဖြစ်သည်။ ထို့ကြောင့်လည်း ဖခင်ကြီး ကွယ်လွန်သွားသော အခါ၌ မိခင် မုဆိုးမကြီး ဒေါ်ဖြူကို သူ၏ စောင်းအတတ်ပညာဖြင့် ဆင်းရဲနွမ်းပါးစွာ ရှာဖွေလုပ်ကိုင် ကျွေးမွေး နေရရှာသည်။

ဖခင်ကြီး ကွယ်လွန်သွားချိန်အထိ မောင်ရှင်မှာ ရှင်သာမဏေ မပြုရသေးပေ၊ ထို့ကြောင့် မိခင်ဖြစ်သူ ဒေါ်ဖြူမှာ ခင်ပွန်းဖြစ်သူ မကွယ်လွန်မီ ကောင်းစားစဉ်က သူမ၏ အမဖြစ်သူ ဒေါ်သူအား ငွေ သုံးပိဿာ ချေးငှားထားခဲ့ဘူးခြင်းကို သတိရလာသည်။ ထိုအချိန်၌ ဒေါ်သူမှာ ကောင်းစားနေချိန် လည်း ဖြစ်သည်။ ထို့ကြောင့် ဒေါ်ဖြူမှာ သား ရှင်ပြုရန်အတွက် ဒေါ်သူထံသို့ သွားရောက် ကြွေးတောင်းရာ ဒေါ်သူက ကြွေးမပေးရုံ မက ဆူပူ ဆဲဆို ကြိမ်းမောင်း လွှတ်လိုက်သည်။

သို့အတွက် ဒေါ်ဖြူမှာ ရှက်လည်း ရှက်၊ စိတ်လည်း နာ၊ မျက်နှာလည်း ငယ်လှသဖြင့် နေရင်း ရပ်ရွာ၌ မနေလိုတော့ဘဲ သား မောင်ရှင်ကို ခေါ်ကာ ဒလမြို့၌ သွားရောက် နေထိုင်ခဲ့ကြသည်။ ယင်းသို့ နေထိုင်ရာမှ မောင်ရှင်က ရှင်သာမဏေ ပြုဘို့ ငွေကြေး ရှာဖွေရန်အတွက် မျောခုတ်သမား အဖြစ်ဖြင့် မိန်းမလှကျွန်းသို့ လိုက်ပါသွားခြင်း ဖြစ်သည်။

မိန်းမလှကျွန်းမှာ မွန်ဘာသာ ဖြစ်၍ မြန်မာလို မြရာပင်များ ပေါသောကျွန်း ဟု အဓိပ္ပာယ် ရသည်။ ဗိုလ်ကလေးမြို့နယ်တွင် ထင်ရှားသော ကျွန်းဖြစ်သည်။ ယင်း မိန်းမလှကျွန်း၏ တောင်ဖက်တွင် ကျွန်းညိုကြီး ဟူသော ကျွန်းတစ်ကျွန်းလည်း ရှိသည်။ သို့သော် ကျွန်းညိုကြီးမှာ ယခုအခါ လူနေအိမ်ခြေများဖြင့် စည်ကားနေပြီ ဖြစ်သည်။

မောင်ရှင်တို့ မသွားရောက်မီကပင် မိန်းမလှကျွန်း၌ ကရင် မုဆိုးမကြီး၏ သမီး လေးယောက်မှာ ကျားကိုက်ခံရ၍ သေဆုံးပြီး အစိမ်းနတ်အဖြစ်ဖြင့် မိန်းမလှကျွန်းကို စောင့်နေလျက် ရှိသည်။

မိန်းမလှကျွန်း၌ မျောများ ခုတ်ယူနေစဉ် တစ်နေ့၌ အခြားသူများ မျောခုတ်သွား၍ မောင်ရှင်မှာ လှေစောင့်အဖြစ် ကျန်ရစ်ခဲ့သည်။ မောင်ရှင်မှာ တစ်ယောက်တည်း ပျင်းနေသဖြင့် အသင့်ပါလာသော သူ၏ စောင်းကို တီးသောအခါ မိန်းမလှကျွန်းကို စောင့်နေကြသော အစိမ်းနတ်သမီးများက မောင်ရှင်အား သဘောကျသွားကြသည်။ ထို့နောက် မျောခုတ်ပြီးကြ၍ လှေထွက်မည် လုပ်ကြရာ ယင်း နတ်သမီးများက လှေထွက်မရအောင် ဆွဲထားကြသည်။ အားလုံး

သဘောတူ မဲချသောအခါ၌ မောင်ရှင်ကို သုံးကြိမ်တိုင်တိုင် မဲကျသဖြင့် လှေသူကြီး မောင်ရှင်ကို ရေထဲသို့ ပစ်ချလိုက်သည်။

သို့သော် မောင်ရှင်မှာ ရေထဲမရောက်မီကပင် ပျောက်သွားပြီး အရှင်လတ်လတ်က နတ်ဖြစ်သွားခဲ့သည်။ ၎င်းကို "ရေငန်ပိုင် ဦးရှင်ကြီး" ဟူ၍ လည်းကောင်း၊ "ကျွန်းညိုရှင်" ဟူ၍ လည်းကောင်း ခေါ်ဝေါ်ကြသည်။

ဦးရှင်ကြီးမှာ အပြင် ၃၇ မင်း နတ်စာရင်းတွင် မပါဝင်သော်လည်း နတ်ထိန်း၊ နတ်ကတော်များက နတ်ကန္နားပေးပွဲ ပြုလုပ်သော အခါ၌ ဦးရှင်ကြီးအား တင်မြှောက် ပသလေ့ ရှိကြသည်။

ရေငန်ပိုင် ဦးရှင်ကြီးအား ဆွမ်း တင်မြှောက်ကြသောအခါ အချို့က ညဦးပိုင်း၌ တင်မြှောက်၍ အချို့က နံနက် အရုဏ်တက် အချိန်၌ တင်မြှောက်ကြသည်။ နံနက် အရုဏ်တက်ချိန် ၌ တင်မြှောက်ကြသူများက ဦးရှင်ကြီးမှာ ယခုအခါ အမြဲတမ်း ရှစ်ပါးသီလ စောင့်ထိန်းနေသည်ဟု ယူဆကာ ညဦးပိုင်း၌ မတင်ဘဲ နံနက် အရုဏ်တက်ချိန်မှ တင်မြှောက်ကြခြင်း ဖြစ်သည်။

**မယ်ဖြူနတ်**

ရေငန်ပိုင် ဦးရှင်ကြီး၏ အမေ ဒေါ်ဖြူ ဖြစ်သည်။ သေဆုံးပြီးနောက် နတ်ဖြစ်သည်ဟု ဆိုသည်။

မယ်ဖြူနတ်မှာ အပြင် ၃၇ မင်း နတ်စာရင်းတွင် မပါဝင်သော်လည်း တောင်ပြုံး၌ ထင်ရှားသော နတ်ဖြစ်သည်။

**အဘိုး**

ဦးရှင်ကြီး ကဲ့သို့ပင် ရေငန်ဒေသ ပင်လယ်ပိုင်း၌ ထင်ရှားသော နတ်တစ်ပါးမှာ အဘိုး ဖြစ်သည်။ လူ့ဘဝတုန်းက မုဆိုးတံငါ အလုပ်ဖြင့် အသက်မွေးသူ ဖြစ်သည်။ သူ၏ ရပ်ရွာ၌ နတ်ကန္နား ပေးသောအခါ ၎င်းအတွက် တစ်ပွဲသပ်သပ် တင်မြှောက် ပသကြရ၍ လူ့ဘဝ၌ပင် "တစ်ပွဲစားကြီး" ဟု ကျော်ကြားခဲ့သည်။

၎င်းကို အချို့က မွန်လူမျိုး ဘိုးတော် ကရင် ဟူ၍ လည်းကောင်း၊ အချို့ကလည်း ဗမာ- ကရင် လူမျိုး အပိုး ဟူ၍ လည်းကောင်း မှတ်သား ပြောဆိုကြသည်။ တစ်နေ့သောအခါ နောက်ပါ လူများနှင့် အမဲပစ်ရန် တောသို့ သွားကြစဉ် နောက်ပါ လူအများ ရှေ့မှာပင် ပျောက်သွားပြီး နတ်ဖြစ်သွားသည်ဟု အဆိုရှိသည်။

မြစ်ဝကျွန်းပေါ်ဒေသ ပင်လယ်ပိုင်း၌ ရေလမ်းခရီး သွားကြသူများ၊ ရေလုပ်ငန်းဖြင့် အသက်မွေးကြသူများသည် အဘိုးအား အားကိုးအားထား တင်မြှောက် ပသလေ့ ရှိကြသည်။

ရေငန်ပိုင် ဦးရှင်ကြီးကို ဆွမ်းတင်မြှောက်သော အခါ၌လည်း အဘိုးအတွက် အောက်ပွဲ တစ်ပွဲ သပ်သပ် တင်မြှောက် ပသလေ့ ရှိကြသည်။

ယင်းသို့ အဘိုးကို တင်မြှောက်သောအခါ "အဘိုး- အဘိုး- အဘိုး" ဟု ကျယ်လောင်စွာ သုံးကြိမ် အော်ခေါ်ပြီး တင်မြှောက်ကြရသည်ဟု ဆိုသည်။ အော်ခေါ်ရခြင်းမှာ အဘိုးသည် အသက်ကြီး၍ နားလေးသောကြောင့် ဖြစ်သည်ဟု သိရှိရသည်။

## (၁၀)

## ဖျာလိပ်နတ် မအောင်ဖြူနှင့်

## ကွင်းဆက်နတ်များ

### နတ် ၃ ပါး

မြန်မာနိုင်ငံ အမျိုးသမီးလောက၌ အထူး ထင်ရှားသော နတ်သည် ဖျာလိပ်နတ် မအောင်ဖြူ ဖြစ်သည်။ ထိုခေတ်က ဖျာလိပ်နတ် မအောင်ဖြူ အတ္ထုပ္ပတ္တိ သမိုင်းနှင့် တဆက်တည်း ဖြစ်ခဲ့ကြသော ကွင်းဆက် နတ်များလည်း ရှိသေးသည်။ ၎င်းတို့မှာ အောက်ပါအတိုင်း ဖြစ်သည်။

၁။ ဖျာလိပ်နတ် မအောင်ဖြူ

၂။ သုံးပန်လှ နတ်

၃။ ကြက်သမား နတ်





### မအောင်ဖြူ

ပုဂံခေတ် ကျစွာမင်း (၅၉၆- ၆၁၂) လက်ထက် အောက်မြန်မာနိုင်ငံတွင် မြို့ သုံးမြို့ကို အပိုင်စားရသော သုံးမြို့ရှင်သည် ဟံသာဝတီ ပြည်မြို့ တည်ရာတွင် မြို့ရိုးတိုင် ထူမရသောကြောင့် ပုဏ္ဏားဖြူ၊ ပုဏ္ဏားညိုတို့ကို မေးမြန်းတော်မူသည်။ အချို့ မှတ်တမ်းများ၌ကား သာယာဝတီမြို့ တည်စဉ်ကဟု အဆိုရှိသည်။

ပုဏ္ဏားဖြူ ပုဏ္ဏားညိုတို့က "အချိန်အခါ ကျလျှင် အောင်ပါသော တနင်္ဂနွေသမီး တစ်ယောက် ဖျာလိပ်ကို ပွေ့၍ လာလိမ့်မည်၊ ယင်း တနင်္ဂနွေသမီးကို စတေးလိုက်ပါက မြို့ရိုးတိုင် ထူမှု အောင်မြင်ပါလိမ့်မည်" ဟု လျှောက်ထားကြရာ ယင်း လျှောက်ထားချက် အတိုင်း ပြုလုပ်ရမည်ဟု သုံးမြို့ရှင်က အမိန့်ပေးတော်မူသည်။ ယင်း အမိန့်အရ အမှုထမ်းများလည်း အချိန်အခါကို စောင့်ဆိုင်း နေကြသည်။

### သုံးပန်လှ နတ်

သုံးမြို့ရှင်၌ တူတော် ပညာဗလ ဟူသော အမတ် ရှိသည်။ ပညာဗလ အမတ်သည် မြို့ဝန်၏ သမီးကို မယူဘဲ သူကြီးသမီး မအောင်ဖြူကို ယူလိုက်သောကြောင့် မြို့ဝန်မင်းက ပညာဗလ အပေါ် ရန်ငြိုး ထားခဲ့သည်။ ထို့ကြောင့် "ပညာဗလ အမတ်သည် တိုင်းပြည်ကို လုပ်ကြံလိမ့်မည်" ဟု မြို့ဝန်မင်းက သုံးမြို့ရှင်အား ဂုံးချော သံတော်ဦးတင်ရာ သုံးမြို့ရှင်ကလည်း ယုံကြည်သဖြင့် ပညာဗလအား ဖမ်းဆီးကာ အကျဉ်းချထားခဲ့သည်။ ထိုမျှသာမက ပညာဗလ၏ နမဖြစ်သူ မမင်းလှကိုလည်း သုံးမြို့ရှင်က သိမ်းပိုက်ရန် ကြံစည်ပြန်သည်။ သို့သော် မမင်းလှသည် ဦးရီးတော်

သုံးမြို့ရှင် သိမ်းပိုက်မှုကို မခံဘဲ အသက်ကို အောင့်၍ အဆုံးစီရင်လိုက်ရာ အနိစ္စရောက်ကာ သုံးပန်လှနတ် ဖြစ်ခဲ့သည်။

သုံးပန်လှနတ်သည် အပျိုဘဝနှင့် အနိစ္စရောက်ပြီး နတ်ဖြစ်ခဲ့သဖြင့် သမီးရည်းစား စုံတွဲ နေမှု ထိုင်မှုများနှင့် အချစ်နှင့် ပတ်သက်သော အမှုကိစ္စ မှန်သမျှ မကြိုက်ဟု အဆိုရှိသည်။

မအောင်ဖြူသည် ၎င်း လင်ယောကျ်ား ရာဇဝတ်သင့်ကြောင်း ကြားသိရသောအခါ တွေ့ဆုံရန် ဒယ်အိုးကို ရွက်ကာ ဖျာလိပ်ကို ပိုက်ပြီး လိုက်လာခဲ့သည်။ နေထိုင်၊ ချက်ပြုတ် စားသောက်ရန် အတွက် ဒယ်အိုး၊ ဖျာလိပ်တို့ကို ယူလာခဲ့ခြင်း ဖြစ်သည်။

ယင်းသို့ လိုက်လာခဲ့ရာ မအောင်ဖြူသည် စောင့်ဆိုင်းနေသော မင်းမှုထမ်းများ အနီးသို့ ရောက်လာ၍ မင်းမှုထမ်းများက ဖမ်းဆီး မေးမြန်းသောအခါ အောင်ပါသော တနင်္ဂနွေသမီး ဖြစ်နေသောကြောင့် မအောင်ဖြူအား မြို့ရိုးတိုင် ထူမည့် တွင်းထဲသို့ ထည့်ပြီး စတေးလိုက်သည်။

မအောင်ဖြူသည် ၎င်းအား မစတေးမီ "အပြစ်မရှိသော မိမိအား စတေးသည့်အတွက် ဟံသာဝတီနယ်တွင် (သာယာဝတီနယ် ဟုလည်း အချို့ မှတ်တမ်း၌ ရှိသည်) လူဖြစ်က လူဆိုး၊ တိရစ္ဆာန်ဖြစ်က တိရစ္ဆာန်ဆိုးများသာ ဖြစ်ကြပါစေ၊ ကြီးပွားခြင်းလည်း မရှိကြပါစေနှင့်" ဟု ကျိန်ဆဲသွားသည်။ တဆက်တည်းမှာပင် "လင်ကိုချစ်သော မိမိသည်လည်း ဖြစ်လေရာ ဘဝတွင် မိမိ၏ လင်ယောကျ်ားနှင့် ပေါင်းသင်းရပါစေသား" ဟု ဆုတောင်းသွားသေးသည်။

သူမ၏ ကျိန်စာသည် ထိရောက်၍ သူမ၏ ဆုတောင်းလည်း ပြည့်ဝသည်ဟု ဆိုရပေမည်၊ ဆုတောင်းသည့် အတိုင်းပင် မအောင်ဖြူသည် ဘီလူးမ ဘဝသို့ ရောက်ရှိသွားပြီးနောက် ထောင်တွင်း အကျဉ်းခံနေရသူ ၎င်း၏ လင်ယောကျ်ား ပညာဗလကို တန်ခိုးဖြင့် ထုတ်ဆောင်ကာ သူမ ပိုင်ဆိုင်ရာ နယ်သို့ ခေါ်ယူသွား၍ ပေါင်းသင်း နေထိုင်ကြရာမှ သားတစ်ယောက်ပင် ဖွားမြင်ခဲ့ရပေသည်။

၎င်းသားမှာ ဘီလူးမနှင့် လူသား ပေါင်းသင်း၍ ပေါက်ဖွားလာသူ ဖြစ်သောကြောင့် အရွယ်ရောက်လာသော အခါ၌ ခြေဖဝါးသည် တစ်တောင် ရှိသည်။ ခွန်အားဗလလည်း ကြီးမားသည်။ ဆင်ကို ဖမ်း၍ အစွယ်ကို ချိုးပစ်နိုင်လောက်အောင် စွမ်းရည်သတ္တိနှင့်လည်း ပြည့်စုံသည်။ ထို့ကြောင့် ၎င်းသားကို "ခြေရာတစ်တောင် မောင်မဲခေါင်" ဟု ခေါ်ဝေါ်ခဲ့ကြသည်။

ခြေရာတစ်တောင် မောင်မဲခေါင်သည် သူ၏ ဘခင် ပြောပြသဖြင့် လူများ နေထိုင်ရာ ဒေသသို့ သွားလိုလှသည်။ မိခင်မှာလည်း ဘီလူးမဖြစ်မှန်း သိသဖြင့် ပို၍ သွားလိုလှပေသည်။ ထို့ကြောင့် တစ်နေ့တွင် မယ်တော် သစ်သီးရှာ သွားခိုက် ဘခင်ကို ထမ်းကာ လူတို့ နေထိုင်ရာ ဒေသသို့ ပြေးလာခဲ့သည်။

မိခင် ဘီလူးမသည် ပြေးမှန်းသိလျှင် သိချင်း လိုက်သော်လည်း သူမ၏ ပိုင်နက် နယ်ကို လွန်မြောက်သွားပြီ ဖြစ်သောကြောင့် မီအောင် မလိုက်နိုင်ပေ၊ သို့ဖြင့်ပင် လင်နှင့် သားကို ခေါ်ရင်း အော်ရင်းနှင့် ရင်ကွဲနာကျကာ သေဆုံးရရှာသည်။

ဘီလူးဘဝမှ သေဆုံးကာနီးတွင် လူ့ဘဝ မအောင်ဖြူ ဖြစ်ခဲ့စဉ်က ကျန်ရှိခဲ့သော ဖျာလိပ်ကို သတိရသည့် စွဲလန်းမှု ဥပါဒါန်ကြောင့် "ဖျာလိပ်နတ် မအောင်ဖြူ" ဖြစ်ခဲ့ရသည်။

ဖျာလိပ်နတ် မအောင်ဖြူကို တင်မြှောက်သောအခါ အုန်း၊ ငှက်ပျောပွဲ ပြင်ဆင်၍ ပွဲရှေ့၌ ဖျာလိပ်သစ်တွင် ထမီ၊ အင်္ကျီ၊ ဆံစု၊ ဘီး စသော အမျိုးသမီး အဝတ် တန်ဆာပလာများကို လူကဲ့သို့ ဝတ်ဆင်ပေးကာ ကျောက်ပြင်၊ မှန်၊ သနပ်ခါးတုံးများ အသင့် ထားရသည်။ သို့သော် လင်နှင့် သားကို စိတ်နာ သေဆုံးသူ ဖြစ်သောကြောင့် ယင်းသို့ တင်မြှောက်သော အခါ၌ ယောကျ်ားများ ကိုင်တွယ်ခြင်း မပြုရပေ။

ဖျာလိပ်နတ် မအောင်ဖြူမှာ အမျိုးသမီး လောက၌ အထူး ထင်ရှားသည်။ ထင်ရှားခြင်းမှာ အပျိုပေါက်၊ အပျိုလတ်၊ အပျိုကြီးများသည် တစ်ခါတစ်ရံ စုရုံးကြကာ "မည်သည့် အမျိုးသမီးကို ငင်းရည်မှန်းထားသူနှင့် အကယ်၍ ပေါင်းရမည် ဆိုပါက မအောင်ဖြူ အရှင်မကြီးက ဘယ်နချက် ရိုက်ပြတော်မူပါ" အစရှိသဖြင့် မိမိတို့ မေးချင်ရာရာတို့ကို မေးမြန်းလေ့ ရှိကြသည်။ မေးသည့် အတိုင်းလည်း ဖျာလိပ်နတ် မအောင်ဖြူက ရိုက်ပြသည်ဟု ဆိုသည်။

ယင်းကဲ့သို့ မေးမြန်းကြခြင်းမှာ အပျော်အပျက်သဘော ရယ်စရာ မောစရာ အဖြစ်လည်း မေးကြသည်။ အတည်အဖြစ်ဖြင့်လည်း မေးကြသည်။ မည်သို့ပင် ဖြစ်စေ ဖျာလိပ်နတ် မအောင်ဖြူကား ပျိုတိုင်းကြိုက်သည့် နှင်းဆီခိုင်လို အမျိုးသမီး လောကမှာ ပွဲတောင်းခြင်း ခံရသော နတ် ဖြစ်သည်။

## ကြက်သမား နတ်

ပညာဗလအမတ်နှင့် သားဖြစ်သူ ခြေရာတစ်ထောင် မောင်မဲခေါင်တို့သည် လူတို့ ဒေသသို့ ပြန်ရောက်လာပြီးနောက် သုံးမြို့ရှင် ဘုရင်ထံတွင် အမှုတော် ပြန်လည်ထမ်းခဲ့ကြသည်။

တစ်နေ့တွင် တောဆင်ရိုင်းကြီး တစ်ကောင် အလွန် သောင်းကျန်းနေရာ ဖမ်းဆီးဝံ့သူ တစ်ယောက်မျှ မရှိကြပေ၊ မောင်မဲခေါင် ထွက်၍ ဖမ်းဆီးသောအခါ၌ ယင်း ဆင်ရိုင်းကြီးကို ရရှိလာသည်။ မောင်မဲခေါင်ကလည်း ဆင်ရိုင်းကြီးကို ဘုရင်အား ဆက်သရာ ကျေနပ် အားရတော်မူသဖြင့် မောင်မဲခေါင်အား စစ်ပိုလ် သက်တော်စောင့် ရာထူးဖြင့် တိုးမြှင့် မြှောက်စား ခန့်ထားခဲ့သည်။

သုံးမြို့ရှင် ဘုရင်သည် ကြက်တိုက် ဝါသနာပါသူ ဖြစ်သည်။ တစ်နေ့တွင် သုံးမြို့ရှင် ဘုရင်သည် ကြက်တိုက်ပွဲသို့ သွားရာ နောက်ကျမှ ရောက်ရှိသွားသောကြောင့် သူနှင့် ကြက်တိုက် ကစားဖက် ဖြစ်သော ပြည်ဘုရင်က ပျက်ရယ်ပြုကာ လှောင်ပြောင်ခဲ့သည်။ ထိုအခါ သုံးမြို့ရှင် ဘုရင်က မောင်မဲခေါင်အား "နင် ဆင်ကောက် နောက်ကျနေ၍ ငါ အရှက်ရသည်" ဟု ဆိုကာ မောင်မဲခေါင်၏ မျက်နှာကို ခြေနှင့် ကန်ကျောက်လိုက်ရာ မောင်မဲခေါင်ကလည်း ရန်ငြိုးထားကာ ပြန်လည် ပုန်ကန်ခဲ့သည်။

သုံးမြို့ရှင် ဘုရင်က တစ်ခါက မောင်မဲခေါင် ဖမ်းပေးခဲ့သော ဆင်တော်ကို စီး၍ တိုက်ခိုက်သည်။ သို့သော် ယင်း ဆင်တော်မှာ မောင်မဲခေါင်၏ အသံကို ကြားရုံဖြင့် လန့်ပြီး ပြေးလေတော့သည်။ ဤတွင် သုံးမြို့ရှင်အား မောင်မဲခေါင်က လှံနှင့် ထိုးလိုက်သဖြင့် ကံကုန်ကာ "သုံးမြို့ရှင် နတ်" ဖြစ်လာသည်။ "ကြက်သမား နတ်" ဟုလည်း အချို့က ခေါ်ကြသေးသည်။

ကြက်သမားများ အနေဖြင့် ကြက်တိုက်ရာတွင် ယင်း ကြက်သမားနတ်ကို တင်မြှောက် ပသက နိုင်သည်ဟု ယူဆ ယုံကြည်ကြသည်။ သို့သော် ယင်းသို့ တင်မြှောက်သောအခါ အုန်းသီး တစ်လုံး၊ ငှက်ပျော သုံးဖီး၊ ဆီမီး သုံးတိုင်၊ ပန်း သုံးမျိုး၊ ကွမ်းသုံးရာ၊ လဘက် သုံးပုံ တို့ဖြင့် ကန်တော့ပွဲထိုး တင်မြှောက်ရသည်။

## (၁၁)

## မိုးခေါင်ကျော်စွာ နတ်

မိုးခေါင်သောအခါ မိုးခေါင်ကျော်စွာ နတ်ကို ပသ၍ လွှန်ဆွဲလေ့ရှိကြသောကြောင့် မြန်မာနိုင်ငံ အရပ်ရပ်ကပင် မိုးခေါင်ကျော်စွာ နတ်ကို သိလည်း သိကြသည်။ စိတ်လည်း ဝင်စားကြသည်။ ယင်း မိုးခေါင်ကျော်စွာ နတ်မှာ ပုဂံခေတ်ကပင် ပေါ်ပေါက်လာခဲ့သော နတ် ဖြစ်သည်။

ပုဂံခေတ်၌ ကုလားကျမင်းဟု အမည်ရသော နရသူမင်း (၅၂၉- ၅၃၃) လက်ထက်တွင် ရှင်မထီးဆရာတော် ထွက်ရပ်ပေါက်သဖြင့် ပုဂံတစ်ပြည်လုံး ရွှေမိုး၊ ငွေမိုး ရွာခဲ့ဘူးကြောင်း သမိုင်း အစဉ်အလာ ပြောစမှတ် ပြုခဲ့ကြသည်။

စင်စစ် ရှင်မထီးဆရာတော်သည် နရသူမင်း မဖြစ်မီ နရသူ၏ ခမည်းတော် အလောင်းစည်သူ မင်းကြီး (၄၇၄- ၅၂၆) လက်ထက်ကပင် ဖိုထိုးခဲ့ရာ ပုဂံပြည် မှူးမတ်၊ သူဌေး၊ သူကြွယ်တို့က ရွှေ၊ ငွေ လှူဒါန်း ထောက်ပံ့ခဲ့ကြသည်။

ယင်းကဲ့သို့ လှူဒါန်း ထောက်ပံ့ကြသူများ အနက် ရှင်မထီးဆရာတော်အား အထူး စေတနာ ထက်သန်စွာဖြင့် အမြဲတမ်း လှူဒါန်း ထောက်ပံ့နေကြသူများမှာ ကျောင်းဒါယကာ သူကြွယ် မောင်ကျော်စွာနှင့် ဇနီး မယ်သော်တာတို့ ဖြစ်ကြသည်။

ရှင်မထီးဆရာတော် ဖိုထိုးသော ခတ်လုံးမှာ ပြဒါးလုံး ဖြစ်သည်။ ထွက်ရပ်ပေါက် ကိစ္စအတွက် ကြိုးကြိုးစားစား ဖိုထိုးပါသော်လည်း အောင်မြင်မှု မရှိပေ၊ ပျက်ဖန်များလာသောကြောင့် လှူဒါန်းထောက်ပံ့ကြသော ဒကာ ဒကာမများ အများအပြားမှာ ပစ္စည်းဥစ္စာ ဆုတ်ယုတ်ကုန်ကြသည်။

နောက်ဆုံး မောင်ကျော်စွာနှင့် မယ်သော်တာတို့ ဇနီးမောင်နံ နှစ်ဦးကသာ ဒိုင်ခံ၍ ရှိရှိသမျှ ပစ္စည်းများကို ထုခွဲရောင်းချ လှူဒါန်း ထောက်ပံ့ နေရတော့ရာမှ မောင်ကျော်စွာနှင့် မယ်သော်တာတို့ ဇနီးမောင်နံပင် သူကြွယ်ဘဝမှ သူရင်းငှားဘဝသို့ ရောက်ရှိသွားရသည် အထိ အခြေအနေ ဆိုးရွားခဲ့ရပေသည်။ သို့တိုင်အောင်လည်း ရှင်မထီးဆရာတော်၏ ပြဒါးလုံးမှာ အောင်မြင်မှု မရရှိ သေးပေ။

ထိုအချိန်၌ အလောင်းစည်သူမင်းကြီး နတ်ရွာစံပြီးနောက် သားတော် နရသူမင်း နန်းစံချိန်တွင် ဖြစ်သည်။ ရှင်မထီးဆရာတော်သည် ဒကာ၊ ဒကာမများထံမှ ရွှေ၊ ငွေ၊ ပစ္စည်း လှူဘွယ် ဝတ္ထုများ မရသည့် အဆုံး၌ နရသူမင်းထံ အလှူခံရာ နရသူမင်းကလည်း "သူ အကျိုးခံစားရမည်" ဟု မျှော်ကိုးယူဆ ယုံကြည်ကာ ရက်ရှည်လများပင် လှူဒါန်းခဲ့ပြန်သည်။ သို့သော် ဆရာတော်၏ ပြဒါးခတ်လုံးကား မအောင်မြင်ခဲ့ပေ၊ နောက်ဆုံး၌ နရသူမင်းမှာ အမျက်ဒေါသကြီးသူ ဖြစ်ရကား သည်းမခံနိုင်တော့ဘဲ မင်းချင်းတို့အား ဆရာတော် ရှင်မထီး၏ မျက်စိနှစ်လုံးကို ဖောက်ထုတ် စေခဲ့သည်။

ဤတွင် ဆရာတော် ရှင်မထီးသည် သူ၏ ပြဒါးလုံးကို စိတ်နာလှရကား ကျောင်း၌ နေသော သူတော်အား ကုဋ္ဌီအိမ် မစင်တွင်းထဲသို့ ပစ်ချခိုင်းလိုက်သည်။ ခိုင်းသည့် အတိုင်းပင် မစင်တွင်းထဲသို့ ပစ်ချလိုက်ရာ မစင်တွင်းသို့ ရောက်သည်နှင့် တစ်ပြိုင်နက် ပြဒါးလုံးမှာ သိဒ္ဓိပေါက်ပြီး တဝင်းဝင်း တလက်လက် အရောင်များ ထွက်ကာ ထိန်လင်း ဝင်းလက်သွားတော့သည်။ အမှန်မှာ "ချေးရည်နှင့် စိမ်ရမည်" ဟူသော အညွှန်းစာကို "ချဉ်ရည်နှင့် စိမ်ရမည်" ဟု မှားမှားယွင်းယွင်း ဖတ်ရှု လုပ်ကိုင်

နေမိသဖြင့် ယခုလို ဈေးရေ (မစင်ရေ) နှင့် ထိတွေ့လိုက်ရသော အခါတွင်မှ အညွန့်အတိုင်း ကိုက်ညီလာသဖြင့် သိဒ္ဓိပေါက်သွားခြင်း ဖြစ်သည်။

ယင်းကဲ့သို့ ပြဒါးလုံး ဝင်းဝင်းတောက်သွားကြောင်းကို သူတော်က ဆရာတော် ရှင်မထီးအား ပြေး၍ လျှောက်ထားသည်။

ဆရာတော်မှာ သူ၏ ပြဒါးလုံး သိဒ္ဓိပေါက်ပြီဟု သိရှိလိုက်သဖြင့် ဝမ်းအမြောက်ကြီး မြောက်ကာ မစင်တွင်းသို့ တွဲပို့စေပြီး ပြဒါးလုံးကို ဆယ်ယူ၍ အမွှေးနံ့သာတို့ဖြင့် ဆေးကြော စေခဲ့သည်။ တဆက်တည်းပင် သူတော်ကိုလည်း ဈေး၌ ရရာမျက်လုံး တစ်စုံကို ဝယ်ယူရန် စေခိုင်းလိုက်သည်။

သို့သော် အချိန်လင့်နေပြီ ဖြစ်သောကြောင့် ဈေး၌ မျက်လုံး တစ်မျိုးတည်း စုံ မရဘဲ ဆိတ်မျက်လုံး တစ်လုံးနှင့် နွားကလေး မျက်လုံး တစ်လုံးသာ ရခဲ့သဖြင့် ယင်း မျက်လုံး ၂ လုံးကို ဆရာတော်အား ဆက်ကပ်လိုက်သည်။ ဆရာတော်ကလည်း ရလာသော ယင်း ဆိတ်နှင့် နွားမျက်လုံး ၂ လုံးကိုပင် ပေါက်တောက်ကန်းနေသော မျက်လုံးအတွင်းသို့ ဖိသွင်းလိုက်ပြီး သူ၏ ပြဒါးလုံးနှင့် ပွတ်သတ်လိုက်ရာ ကန်းသွားသော မျက်စိနှစ်လုံးမှာ ပကတိအတိုင်း ပြန်မြင်လာခဲ့သည်။ ပြန်မြင်လာသော်လည်း ယင်းသို့ ဆိတ်မျက်စိ တစ်ဖက်၊ နွားမျက်စိ တစ်ဖက် ဖြစ်နေသောကြောင့် ထိုအခါမှ စ၍ ဆရာတော် ရှင်မထီးမှာ "ရှင်အဗ္ဗဂေါဏ" ဟူသော ဘွဲ့အမည်သစ်ကို ရရှိခဲ့သည်။

ထိုအခါ ရှင်အဗ္ဗဂေါဏသည် သူ၏ ထွက်ရပ်ပေါက် လုပ်ငန်းကို ဆက်လက် ကြိုးစားရန် အတွက် ထွက်တော့မည် ဖြစ်၍ ပုဂံပြည်တွင် ရှိသော သူ၏ ဒကာရင်း၊ ဒကာမရင်းများအား မ, စ ထားခဲ့လိုသောကြောင့် ကြေးရည်၊ ခဲရည်တို့ကို ကျိုစေပြီးလျှင် သူ၏ တောင်ဝှေးဖျား၌ ပြဒါးလုံးကို တပ်ကာ ယင်း ကြေးရည်၊ ခဲရည်များကို မွှေလိုက်လျှင် ကြေးရည်၊ ခဲရည် အဖြစ်မှ ရွှေရည်၊ ငွေရည် အဖြစ်သို့ ပြောင်းလဲ ရောက်ရှိကုန်ကြသည်။ ထိုအချိန်က ပုဂံပြည်၌ ရွှေမိုး၊ ငွေမိုး ရွာသည်ဟုပင် ယခုတိုင်အောင် သမိုင်း အစဉ်အလာ ပြောစမှတ် ပြုခဲ့ကြရသည်။ ပြောစမှတ် ပြုရလောက် အောင်လည်း ဟုတ်သဖြင့် ကြေးခဲ အနည်းငယ်သာ ရှာဖွေနိုင်သော မုဆိုးမများသည်ပင် ဘုရားတစ်ဆူ တည်နိုင်လောက်အောင် ကြွယ်ဝ ချမ်းသာခဲ့ပေသည်။

ယင်းကဲ့သို့ ပုဂံပြည် ဒကာ၊ ဒကာမများကို သူဌေး၊ သူကြွယ် ဖြစ်အောင် မ, စ ခဲ့ပြီးနောက် ဆရာတော် ရှင်အဗ္ဗဂေါဏသည် ပုပ္ပားတောင်ဖက်သို့ ထွက်ကြွတော်မူသည်။ သူ့မျက်လုံးကို ဖောက်ပစ်ခဲ့သော နရသူမင်းကိုကား စိတ်နာလှသဖြင့် အကြောင်းမျှ မကြားခဲ့ပေ။

ပုဂံတစ်ပြည်လုံး အုံးအုံးကြွက်ကြွက် ရွှေမိုး၊ ငွေမိုး ရွာနေသော အချိန်၌ ကံခေလှသော မောင်ကျော်စွာနှင့် မယ်သော်တာ ဇနီးမောင်နှံတို့မှာ မြို့တွင်း၌ မရှိကြပေ။ မြို့နှင့် ဝေးကွာလှသော တောင်ယာ ပဲခင်းများ၌ တောင်သူ လုပ်နေကြရသဖြင့် ဆရာတော် ရှင်အဗ္ဗဂေါဏနှင့် မတွေ့လိုက်ကြ ရပေ။

သို့သော် ဆရာတော် ရှင်အဗ္ဗဂေါဏသည် ထွက်ရပ်ပေါက် ပညာစခန်းကို အဆင့်အတန်း အမြင့်ဆုံးအထိ ကိစ္စပြီးဆုံး အောင်မြင်ပြီးနောက်၌ကား မောင်ကျော်စွာနှင့် မယ်သော်တာတို့ ရှိရာ အရပ်သို့ ကြွလာပြီး မြောက်မြားလှစွာသော ရွှေ၊ ငွေ၊ ရတနာ အဖြာဖြာတို့ကို ပေးအပ် ချီးမြှင့်ရာ မောင်ကျော်စွာနှင့် မယ်သော်တာတို့မှာလည်း နောက်ဆုံး အချမ်းသာ အကြွယ်ဝဆုံး အဖြစ်ဖြင့် ပုဂံတွင် ထင်ရှား ကျော်ကြားလာခဲ့သည်။

ဆရာတော် ရှင်အဗ္ဗဂေါဏသည် ဖိုဝင်ရန် အချိန် ဆိုက်ရောက်လာ၍ တပည့်ကောင်း လိုလာသည်။ ထို့ကြောင့် တစ်နေ့တွင် မောင်ကျော်စွာကို လိုက်ပါရန် လာရောက် ခေါ်ငင်ရာ ထိုအချိန်က မောင်ကျော်စွာမှာ အိမ်၌ မယားဖြစ်သူ မယ်သော်တာလည်း မရှိခိုက် ဖြစ်သည့်ပြင် သားကလေး ဝံသာကိုလည်း တစ်ယောက်တည်း ထားပစ်ခဲ့ရန် မဖြစ်နိုင်သဖြင့် ပြန်လည် လျှောက်ထားလိုက်သည်။

ဆရာတော် ရှင်အဖ္ဓုဂေါဇလည်း မည်သို့မျှ ပြန်လည် မမိန့်ကြားတော့ဘဲ မယ်သော်တာရှိရာ ယာခင်းသို့ ကြွသွားပြီး တပည့်အဖြစ် လိုက်ရန် ခေါ်ရာ မယ်သော်တာမှာ မိမိကိုယ်တိုင် ဝိဇ္ဇာဖြစ်ရမလောက် ဝမ်းမြောက်ဝမ်းသာဖြင့် ချက်ချင်းပင် လိုက်ပါသွားခဲ့သည်။

ယင်းသို့ မယ်သော်တာ လိုက်သွားပြီးနောက် ဆရာတော် ရှင်အဖ္ဓုဂေါဇအပေါ် ရန်ညှိုးဖွဲ့ထားသော နရသူမင်းသည် မောင်ကျော်စွာနှင့် သား မောင်ဝံသာတို့ကို ဖမ်းဆီးကာ ဆရာတော်ရှိသော အရပ်ကို မေးမြန်းခြင်း၊ မောင်ကျော်စွာ ကိုယ်တိုင်ပင် ရွှေ၊ ငွေ ဖြစ်သည်ဟု ယုံကြည်နေခြင်းတို့ကြောင့် ယင်းကိစ္စများ မပေါ်, ပေါ်အောင် နှိပ်စက် စစ်ဆေးခဲ့ရာမှ လက်လွန်ကာ မောင်ကျော်စွာနှင့် သား ဝံသာတို့ သေဆုံးခဲ့ရရှာပြီး ကျော်စွာ နတ်ဖြစ်လာသည်။

မယ်သော်တာမှာမူ ဆရာတော် ဖိုဝင်ရာ၌ စောင့်ရှောက်ပြီးနောက် ဝိဇ္ဇာ ဖြစ်သွားသည်ဟု အချို့က ယူဆကြသည်။ အချို့ကလည်း လင်ဖြစ်သူ မောင်ကျော်စွာနှင့် သား ဝံသာတို့ သေဆုံးသောကြောင့် သောကမီး တောက်ကာ ဝတ်ကြောင်ကို မုန်းပြီး ပုပ္ပားတောင်၌ ရသေ့မ ပြုလုပ်နေထိုင်ခဲ့သည်ဟု ယူဆကြသည်။

ကျော်စွာ နတ်ဖြစ်လာသော အခါ၌ ပုဂံဘုရင် နရသူနှင့် မှူးမတ် စသူတို့ကို များစွာ စိတ်နာသောကြောင့် ၎င်း နတ်ဖြစ်နေသော ပုပ္ပားတောင်ကလပ်စွန်းမှ နေ၍ ပင်လယ်ဖက်မှ တက်လာသော မိုးသား တိမ်တိုက်တို့ကို တန်ခိုးဖြင့် ဖယ်ရှားပစ်နေရာ ပုဂံပြည်တွင်း မိုးခေါင်သည့် အဖြစ်သို့ ဆိုက်ရောက်ခဲ့ရသည်။

ဤတွင် နရသူမင်းနှင့်တကွ ပြည်သူတို့က နတ်ကန္နား ပေးကာ ၃၇ မင်း နတ်များကို မေးမြန်းခဲ့ကြသည်။ ၃၇ မင်း နတ်များကလည်း "၎င်းတို့ထက် တန်ခိုးကြီးသော ကျော်စွာနတ်၏ လက်ချက်ကြောင့် ဖြစ်ကြောင်း" ပြန်လည် ဖြေကြားခဲ့သည်။





ထို့ကြောင့် နရသူမင်းသည် ကျော်စွာနတ်ကို ပင့်ကာ မှားကြောင်း ဝန်ချ တောင်းပန်ရာ ကျော်စွာနတ်က "နရသူမင်း လွန်ကြောင်းကို ပြည်သူပြည်သားအားလုံး သိအောင် လွန်ကြိုးကို တစ်ဖက်တစ်ချက် ဆွဲကြ၍ လွန်ခေါင်းပေါ်က မိမိ စီးရမှ ကျေနပ်နိုင်မည်" ဟု ပြောဆိုသည်။ သို့ဖြင့်ပင် ယခုတိုင်အောင် လွန်ဆွဲသောအခါ လွန်ခေါင်းတပ်ပွဲ ပေး၍ ဆွဲကြရခြင်း ဖြစ်သည်။

မိုးခေါင်လျှင် ယင်းကဲ့သို့ လွန်ဆွဲ ပသရသောကြောင့် မိုးခေါင်ကျော်စွာ နတ် ဟု ထင်ရှားခဲ့သည်။

## (၁၂)

## နံကရိုင်း နတ်နှင့်

## ကွင်းဆက်များ

### နံကရိုင်း နတ်

နံကရိုင်းနတ် အတ္ထုပတ္တိ သမိုင်းနှင့် ပတ်သက်၍ မှတ်တမ်း မူကွဲများ ရှိသည်။ ဤ၌ "မွန်ရာဇဝင်နှင့် စေတီပေါင်းချုပ် သမိုင်း" အရ ဖော်ပြလိုပေသည်။

သက္ကရာဇ် ၁၈၇ ခုနှစ်တွင် သမလမင်းကြီးသည် ဟံသာဝတီ ထီးနန်းကို စံမြန်းပြီးလျှင် ညီတော် ဝိမလ မင်းသားအား အိမ်ရှေ့မင်း အရာ ပေးအပ် ချီးမြှောက်ခဲ့သည်။

ထိုအချိန်က ပူး၊ ဖရုံ၊ တောင်ယာ ပဲခင်းများကို စိုက်ပျိုး လုပ်ကိုင် စားသောက်နေသော မဲအိုးလောင်း ဆိုသူ ရှိသည်။ ယင်း မဲအိုးလောင်း၏ သမီးကို မိဖုရားမြှောက်ရန် သမလမင်းကြီးက သူ၏ မင်းချင်းများကို စေလွှတ် ဆောင်ကြဉ်းစေသည်။ ယင်းသို့ လာရောက် ဆောင်ကြဉ်းသည်ကို ကြောက်ရွံ့သောကြောင့် ယင်း အမျိုးသမီးမှာ ရွှေဖရုံသီးခြမ်းထဲ၌ ဝင်ရောက် ပုန်းအောင်းနေခဲ့သည်။ သို့သော် ယင်းသို့ ပုန်းအောင်းနေသည်ကိုပင် မင်းချင်းတို့က ရှာဖွေတွေ့ရှိကာ ဆောင်ကြဉ်းသွားပြီး သမလမင်းကြီးအား အကြောင်းစုံ သံတော်ဦးတင်ကြရာ သမလမင်းကြီးက "ကပီထော်" အမည်ဖြင့် မိဖုရားမြှောက်ခဲ့သည်။ ကပီထော်မှာ မွန်ဘာသာစကား ဖြစ်၍ မြန်မာလို "ရွှေဖရုံမယ်" ဟု အဓိပ္ပာယ်ရသည်။

မိဖုရားကြီး ရွှေဖရုံမယ်တွင် သားတော်တစ်ပါး ဖွားမြင်ပြီးနောက် အိမ်ရှေ့မင်း ဖြစ်သူ ညီတော် ဝိမလ မင်းသားက နောင်တော် သမလမင်းကြီးအား လုပ်ကြံပြီး ထီးနန်းကို သိမ်းယူလိုက်သည်။ မရီးတော် ရွှေဖရုံမယ် မိဖုရားကြီးကိုလည်း သားတော်ကလေးအား နယ်စွန် နယ်ခြား၌ သွားရောက် စွန့်ပစ်ရမယ်ဟု အမိန့်ပေးခဲ့သည်။ ထို့ကြောင့် ရွှေဖရုံမယ်သည် သားတော်ကလေးကို ဟံသာဝတီပြည်နှင့် သထုံပြည် နယ်ခြား ကွမ်အပ်သာ တောစပ်၌ သွားရောက် စွန့်ပစ်ထားခဲ့ရသည်။

ကွမ်အပ်သာ တောစပ်အနီး ရွာငယ်တစ်ရွာမှ မိနံကရိုင်းသည် ကျွဲကျောင်းထွက်လာရာ ကွမ်အပ်သာ တောစပ်၌ သားငယ်တစ်ယောက်ကို တွေ့ရှိရ၍ ကောက်ယူ ကျွေးမွေးထားသည်။ မိနံကရိုင်းမှာ မွန်ကရင်လူမျိုး ဖြစ်၍ ကျွဲများ မွေးမြူပြီး လယ်ယာလုပ်ကိုင် စားသောက်နေသူ ဖြစ်သည်။ ယင်း သားငယ်ကို ကွမ်အပ်သာ တောစပ်မှ ကောက်ယူ ရရှိသောကြောင့် အမှတ်တရ ဖြစ်စေရန် "အပ်သာ" ဟု အမည်ပေးခဲ့သည်။

"ကွမ်အပ်သာ" မှာ မွန်ဘာသာ ဖြစ်၍ မြန်မာလို "နယ်ခြား" ဟု အဓိပ္ပာယ်ရသည်။ ထို့ကြောင့် အပ်သာကို "နယ်ခြား မင်းသား" ဟု ခေါ်သည်။ နောက် ကာလ ကြာညောင်းလာ၍ "အသား မင်းသား" ဟု ရွေ့လျော ခေါ်ဝေါ်သည်ဟု ဆိုသည်။

မိနံကရိုင်းသည် ယင်း အပ်သာ ခေါ် အသား မင်းသားကို သူ၏ ကျွဲခြံတွင်းရှိ နို့စားကျွဲမများမှ နို့ကို ညှစ်ယူ ကျိုချက်တိုက်ကျွေး မွေးမြူခဲ့သည်။ သားရင်းနှင့်မခြား ပြုစု စောင့်ရှောက်ခဲ့သည်။ အပ်သာ ခေါ် အသားမင်းသား အသက်အရွယ် ကြီးပြင်းလာသောအခါ ကရင်လူမျိုးတို့၏ အလေ့အကျင့်၊ ဓလေ့ထုံးစံအတိုင်း (၁) ရန်သူကို ခုခံ ကာကွယ်နိုင်စေရန် လည်းကောင်း၊ (၂)

မိန်းမကောင်းကောင်း ရနိုင်စေရန် လည်းကောင်း မိန့်ကရိုင်း၏ ဖခင်ကြီးက အသားမင်းသား အား လက်ဖွဲ့ပညာ သင်ပေးခဲ့သည်။

တစ်နေ့တွင် အသားမင်းသားသည် တောစပ်၌ မိန့်ကရိုင်း၏ ကျွဲများကို ကျောင်းနေစဉ် အမဲလိုက်ရန် လာသော ဟံသာဝတီပြည်မှ မုဆိုးတစ်ယောက်နှင့် တွေ့ဆုံကြကာ မိတ်ဆွေဖြစ်သွားကြသည်။

ထို့နောက် ဟံသာဝတီပြည်မှ မွန်လူမျိုးများက နှင်ထုတ်လိုက်သော ဟိန္ဒူလူမျိုးများသည် ဟံသာဝတီပြည်ကို တိုက်ခိုက် သိမ်းယူရန် အရပ် ခုနစ်တောင် မြင့်သော လန်ဘား အမည်ရှိ ကုလားကြီးကို တပ်မှူးအဖြစ် တင်မြှောက် ဦးစီးစေကာ သင်္ဘော ခုနစ်စင်းနှင့် ရောက်ရှိလာသည်။ စစ်တိုက်ခိုက်တော့မည့် အကြောင်းကိုလည်း ဝိမလမင်းကြီးထံ သဝဏ်လွှာ ပေးပို့လိုက်လေသည်။

ဝိမလမင်းကြီးသည် တပ်မှူး လန်ဘား ဦးစီးသော ဟိန္ဒူလူမျိုးများကို စစ်ဘက်ပြိုင်တိုက်ခိုက်ရန် တိုင်းပြည်အတွင်း မောင်းကြေးနန်းခတ်၍ ရှာဖွေခဲ့သည်။ ဤတွင် အသားမင်းသားနှင့် တွေ့ခဲ့သော မုဆိုးနှင့် မင်းချင်းတို့သည် မင်းကြီး ရှေ့တော်သို့ ဝင်ကာ လူစွမ်းကောင်း တွေ့ရှိခဲ့သော နေရာကို လျှောက်ထားကြသည်။ ယင်းအကြောင်းကို ကြားလျှင် ဝိမလမင်းကြီးလည်း အားရဝမ်းမြောက်တော် မူလှသဖြင့် အသားမင်းသား ရှိရာသို့ စေတမန်များ လွှတ်ကာ ခေါ်ယူစေခဲ့သည်။

နန်းတော်တွင်းသို့ အသားမင်းသား ရောက်လျှင် မင်းကြီးသည် "တပ်မှူး လန်ဘားကို နိုင်အောင် စစ်တိုက်ပေးနိုင်လျှင် သမီးတော်နှင့် ထိမ်းမြားး၍ အိမ်ရှေ့အရာ အပ်နှင်းမည်" ဟု မိန့်တော်မူသည်။ အသားမင်းသားက "သူ၏ မိခင် နံ့ကရိုင်းထံ ပြန်၍ ခွင့်တောင်းပါရစေ၊ ခုနစ်ရက် ဆိုင်းတော်မူပါ" ဟု လျှောက်ထားပြီး မိန့်ကရိုင်း ရှိရာသို့ ပြန်လာခဲ့သည်။

မိန့်ကရိုင်းထံ ပြန်ရောက်၍ အသားမင်းသားက ခွင့်တောင်းသော အခါ၌လည်း မိန့်ကရိုင်းက ခွင့်ပေးသည်။ ထို့နောက် "ရန်သူကို အောင်မြင်အောင် ဘယ်နည်းနှင့် တိုက်ခိုက်ရမည်၊ တိုက်ခိုက်နေစဉ် ဥပါယ်တမည်နှင့် လှည့်စားပြီး- ဟော့ လန်ဘား... နောက်က အမိုးလာပြီ ဟု အော်လိုက်၊ လံဘား လှည့်ကြည့်လျှင် လှံနှင့် ထိုး" စသည်ဖြင့် သွန်သင်စကားများ မှာကြားလိုက်သည်။

အသားမင်းသား ပြန်လာသောအခါ လမ်းခုလတ်၌ မြစ်တစ်ခုမှ ဒီရေတက်နေ၍ ဒီရေစောင့် နတ်သမီးနှင့် တွေ့ရာ အသားမင်းသားက တစ်မောင်းအတွင်း ဒရယ်ကြောပြောင် အမြီးတစ်ထောင်ကို ရအောင် ရှာပေးရန် တန်ခိုးပြိုင်ကြသည်။

ပြိုင်သည့်အတိုင်းလည်း အသားမင်းသားသည် ဒရယ် အမြီးတစ်ထောင် ရအောင် ရှာဖွေဖြတ်ယူလာသည်။ သို့သော် အမြီးတစ်ထောင်ထဲမှ အမြီးတစ်ချောင်းကို ရေနတ်သမီးက ဝှက်ထားလိုက်ရာ တစ်ထောင် မပြည့်သည်နှင့် အသားမင်းသားက အရှုံးပေးလိုက်ရသည်။ "ရှုံးသည့်သူက နိုင်သည့်သူ စေခိုင်းရာ အစဉ်အမြဲ လုပ်ပေးရမည်" ဟု ကတိပြုထားသည့် အတိုင်း ရေနတ်သမီးက "အသင်နှင့်တကွ အသင်တို့ လူမျိုး မင်္ဂလာဆောင်လျှင် ကျွဲခေါင်းကို ဖြတ်၍ ကျွန်ုပ်အား တင်မြှောက် ပသရမည်" ဟု စေခိုင်းသည်။

အသားမင်းသားသည် ဟံသာဝတီပြည်သို့ ပြန်လည်ရောက်ရှိပြီး လန်ဘားနှင့် စစ်တိုက်သော အခါ မိခင်ဖြစ်သူ နံ့ကရိုင်း သွန်သင် မှာထားလိုက်သော နည်းဥပါယ်တမည်ဖြင့် တိုက်ခိုက်ရာ လန်ဘား ရှုံးနိမ့်ပြီး အသားမင်းသားက အနိုင်ရရှိသွားသည်။

ယင်းသို့ အနိုင်ရရှိပြီးနောက် ဝိမလမင်းကြီးသည် အသားမင်းသားအား သမီးတော်နှင့် လက်ထပ်ကာ အိမ်ရှေ့မင်းအဖြစ် အပ်နှင်းခဲ့သည်။ ထို လက်ထပ်ပွဲ၌ အသားမင်းသားသည် ရေနတ်သမီးထံ ကတိခံခဲ့သည့် အတိုင်း သူ၏ မွေးစားမိခင် ဖြစ်သူ နံ့ကရိုင်းထံ ပြန်သွားကာ

ကျွဲဦးခေါင်းကို တောင်းဆို ဖြတ်ယူလာပြီး တင်မြှောက် ပသသည်ကို "နံကရိုင်း ကျွဲနတ်" ဟု ခေါ်သည်။

ဝိမလမင်းကြီးက မေးသောကြောင့် မိနံကရိုင်းက အသားမင်းသားကို ကောက်ယူ မွေးစားခဲ့ပုံ စသည်တို့ကို အသားမင်းသားက ပြန်လည် လျှောက်ထားမှ တူတော်မှန်း သိရှိသွားတော့သည်။ ဤတွင် ဝိမလမင်းကြီးက ပြစ်မှားမိသော အပြစ်တို့ကို တောင်းပန်ပြီး ရန်သူအပေါင်းကို အောင်မြင်သောကြောင့် "အသကုမ္ဘာ" ဟူသော ဘွဲ့ပေးကာ ဟံသာဝတီ ထီးနန်းကို လွှဲအပ်ခဲ့သည်။

အသားမင်းသား ထီးနန်း စိုးစံပြီးနောက် အမှတ်တရ ဖြစ်စေရန် ကွမ်းအပ်သော တောစပ်၌ "ကျိုက်အပ်သာ" ဘွဲ့ဖြင့် ဘုရားတစ်ဆူ တည်ထားခဲ့သည်။ ယခုအခါ သထုံနယ်၌ "ကျိုက်ကသာ" အမည်ဖြင့် ထင်ရှားသော ဘုရားမှာ ယင်း ကျိုက်အပ်သာ ဘုရားပင် ဖြစ်သည်။ ကာလကြာ၍ ကျိုက်အပ်သာမှ ကျိုက်ကသာဟု ရွေ့လျော ခေါ်ဝေါ်လာကြခြင်း ဖြစ်သည်။

ဤကဲ့သို့ အသားမင်းသား ကျွဲခေါင်းဖြတ်ပြီး နတ်တင်သည်မှ အစပြု၍ ရိုးရာ အစဉ်အလာ ဖြစ်ခဲ့ရာ ကာလကြာလာသောအခါ၌ ငါး, ငါးရံ့ကို နဖားထိုး တင်မြှောက်ကြခြင်း ဖြစ်သည်။

## လိပ်ပုပ်

မွန်လူမျိုး အနေဖြင့် နံကရိုင်းနတ်နှင့် တဆက်တည်း ရိုးရာအစဉ်အလာ တစ်ခုမှာ လိပ်ပုပ် ဖြစ်သည်။

အသားမင်းသားနှင့် တန်ခိုးပြိုင်သော ဒီရေစောင့် နတ်သမီး စီးသော ယာဉ်မှာ လိပ်သတ္တဝါ ဖြစ်သည်။ အသားမင်းသားနှင့် ဒီရေစောင့် နတ်သမီးတို့ တန်ခိုးပြိုင်ကြစဉ်က အသားမင်းသား ယူလာသော ဒရယ်ကြောပြောင် အမြီး တစ်ထောင်ထဲမှ အမြီးတစ်ချောင်းကို နတ်သမီးက ခိုးယူကာ သူ၏ အနောက်ဖက် ခါးစီး၌ ညှပ်၍ ထားလိုက်သည်။ အသားမင်းသားက နတ်သမီးကို မသင်္ကာ၍ ရှာဖွေသော်လည်း နတ်သမီး၏ စီးတော်လိပ်ယာဉ်က စားထားလိုက်၍ အသားမင်းသားက အရှုံး ပေးခဲ့ရသည်။ ယင်းသို့ ရှုံးသဖြင့် ကတိခံထားသည့် အတိုင်း အသားမင်းသားက ကျွဲခေါင်း ဖြတ်၍ နတ်သမီးကို တင်မြှောက်ခဲ့ရသည်။

အသားမင်းသား မင်းဖြစ်လာသော အခါ၌ ပေးခဲ့ရသော ကတိအတိုင်း သူကဲ့သို့ပင် သူ၏ လူမျိုး တိုင်းသူပြည်သားများလည်း မင်္ဂလာဆောင်တိုင်း ကျွဲခေါင်းဖြတ်၍ နတ်တင်ရန် အမိန့်အာဏာ ထုတ်ပြန်ခဲ့ရာမှ နံကရိုင်းနတ်မှာ ရိုးရာနတ်အဖြစ် အစဉ်အလာ ဖြစ်ခဲ့သည်။

ထို့ကြောင့် မွန်လူမျိုးများသည် လိပ်သတ္တဝါကို နိမိတ်မကောင်းသော သတ္တဝါအဖြစ် ရွံ့ကြောက် မုန်းတီးခဲ့ကြသည်။ မွန်လူမျိုး သို့မဟုတ် မွန်အဆက်အနွယ် အိမ်ပေါ်သို့ လိပ်သတ္တဝါ တက်လာသော် လည်းကောင်း သို့မဟုတ် တစ်ယောက်ယောက်က အမှတ်တမဲ့ ယူသွားမိသော် လည်းကောင်း အိမ်ရှင်များက "လိပ်ပုပ်- လိပ်ပုပ်" ဟု ကြောက်လန့်တကြား ပြောကြားကြသည်။ အချို့က မျက်စိမှိတ်၍သော် လည်းကောင်း၊ အချို့က "ဟဲ့... လိပ်ပုပ်... လိပ်ပုပ်၊ တခြားကို မြန်မြန်ယူသွား" ဟု လည်းကောင်း ပြုမူ ပြောကြားလေ့ ရှိကြသည်။ အချို့ကလည်း လိပ်ကို သတ်၍ နတ်ကျွေးကြသည်။

(၁၃)

## အခြား နတ်များ

### ခေတ် အဆက်ဆက်

အထက်ပါ နတ်များ အပြင် ပျူခေတ် နတ်များ၊ ပုဂံခေတ် နတ်များ၊ ပင်းယခေတ် နတ်များ၊ တောင်ငူခေတ် နတ်များ၊ ညောင်ရမ်းခေတ် နတ်များ၊ ကုန်းဘောင်ခေတ် နတ်များ၊ ရှမ်းပြည်ဖြစ် နတ်များ၊ မွန်ပြည်ဖြစ် နတ်များနှင့် အိန္ဒိယဖြစ် နတ်များ အစရှိသဖြင့် ခေတ် အဆက်ဆက် သမိုင်း အဆက်ဆက်က နတ်များလည်း အများအပြား ရှိသေးသည်။ ယင်းတို့မှာ -

၁။ ပုန်းမကြည် ရှင်မ
၂။ မဟာမြိုင် နတ်သမီး
၃။ ကိုးသိန်းရှင်
၄။ ရွှေကျွန်းတော်ရှင်နှင့် ကျောက်ဆောင်ကတော်
၅။ ဖိုးဝင်းရှင်မ
၆။ ပြာပုံတောင်ရှင်မ
၇။ ကျောက်တိုင်ရှင်မ
၈။ အောင်ဒိုင်နတ်
၉။ ရွှေလေးရင်နှင့် ရွှေကညင်နတ်
၁၀။ မနင်းဆီနတ်
၁၁။ ရေယဉ်ကတော်
၁၂။ အလုံဘိုးတော်ကြီး
၁၃။ မယ်ဖြူ- မယ်ညို
၁၄။ မိုင်းနင်းရှင်မ
၁၅။ ပျဉ်တောင်ရှင်မ
၁၆။ တောပုန်းနတ် စသည်တို့ဖြစ်သည်။

### ပုန်းမကြည်ရှင်မ

ယင်း နတ်တို့အနက် ပုန်းမကြည်ရှင်မမှာ အိန္ဒိယနိုင်ငံမှ ဖြစ်၍ လယ်သမားများ ယုံကြည်ကိုးစားကြသည်။ အမှန်မှာ ဘီလူးမ ဖြစ်သည်။ တောင်သူလယ်သမားများ စပါးလှေ့သောအခါ "ဘီလူးမရေ တောင်ပေါ်ကလေ ခေါ်ခဲ့ပေ့" ဟု ပြော၍ လေချွန်လျှင် စပါးလှေ့နိုင်အောင် လေလာသည်ဟု ယူဆကြသည်။

### မဟာမြိုင် နတ်သမီး

မဟာမြိုင် နတ်သမီးမှာ ပျူနတ် ဖြစ်သည်။ သရေခေတ္တရာနှင့်ခေတ်ပြိုင် ပန်ထွာပြည်ရှင် ဘုရင်ဖြစ်သော ပန်ထွာဘုရင်မ ဖြစ်သည်။ ၎င်းကို ပိသနိုး နတ်မင်းသမီး ဟူ၍ လည်းကောင်း၊ မဟာမြိုင် နတ်သမီး ဟူ၍ လည်းကောင်း ခေါ်ဝေါ်ကြသည်။

ကျန် ကိုးသိန်းရှင် အစရှိသော နတ်များ၏ အတ္ထုပ္ပတ္တိ သမိုင်းကို ဤ၌ အကျယ် မဖော်ပြနိုင်တော့ဘဲ ဤမျှဖြင့် အဆုံးသတ်ရတော့မည်။

## (၁၄)

## နတ် ကိုးကွယ် သင့် - မသင့်

### ဗုဒ္ဓဘာသာနှင့် သရဏဂုံ

ဗုဒ္ဓဘာသာဝင် တစ်ယောက် အနေဖြင့် သရဏဂုံ တည်မှုသည် ပဌမ ဦးစားအဖြစ် အရေးကြီးလှပေသည်။ သရဏဂုံ တည်မှု ဆိုသည်မှာ- (၁) ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ (မြတ်စွာဘုရားကို ကိုးကွယ် ဆည်းကပ်ပါ၏ ဘုရား)၊ (၂) ဓမ္မံ သရဏံ ဂစ္ဆာမိ (တရားတော်မြတ်ကို ကိုးကွယ် ဆည်းကပ်ပါ၏ ဘုရား)၊ (၃) သံဃံသရဏံ ဂစ္ဆာမိ (သံဃာတော်မြတ်ကို ကိုးကွယ် ဆည်းကပ်ပါ၏ ဘုရား) ဟူ၍ ဘုရား၊ တရား၊ သံဃာ ရတနာ သုံးပါးကို ကိုးကွယ် ဆည်းကပ်မှု ဖြစ်သည်။

သရဏဂုံ တည်မှုသည် အဘယ့်ကြောင့် ပဌမ ဦးစားပေးအဖြစ် အရေးကြီးရသနည်း ဟု မေးလျှင် သရဏဂုံ မတည်က ဗုဒ္ဓဘာသာဝင် မဖြစ်နိုင်သောကြောင့် အရေးကြီးရသည် ဟု ဖြေရပေမည်၊ အကယ်၍ ဗုဒ္ဓဘာသာဝင် တစ်ယောက်ဟု အမည်ခံထားသည့် တိုင်အောင်လည်း သရဏဂုံ မတည်က ဗုဒ္ဓဘာသာ မဖြစ်နိုင်ကြောင်းကို ဤ၌ သတိပြုဘို့ လိုသည်။

### သရဏဂုံ ပျက် - မပျက်

ထို့ကြောင့် အချို့က နတ် ကိုးကွယ် တင်မြှောက်ခြင်းသည် သရဏဂုံကို ပျက်စီးစေတတ်သောကြောင့် ဗုဒ္ဓဘာသာဝင်များ အနေဖြင့် နတ် ကိုးကွယ် တင်မြှောက်မှု မပြုသင့်ဟု ယူဆကြသည်။ ယင်း ယူဆချက်အတိုင်း မှန်ပါက ဗုဒ္ဓဘာသာဝင် တစ်ယောက်အဘို့ နတ် ကိုးကွယ် တင်မြှောက်မှု မပြုသင့်ပေ၊ သို့ဖြစ်ရာ ယခုအခါ နတ်ကိုးကွယ် တင်မြှောက်ခြင်းကြောင့် သရဏဂုံ ပျက်၊ မပျက် အလေးအနက် စဉ်းစား ဆုံးဖြတ်သင့်ကြပြီ ဖြစ်သည်။ ယင်းသို့ စဉ်းစား ဆုံးဖြတ်ရန် အတွက် ကျမ်းဂန်တတ်အကျော် ရှေးရှေး ဆရာတော်ဘုရားကြီးများ၏ အယူအဆ အဆုံးအဖြတ် အဆိုအမိန့်များကို နားထောင်ကြည့်ကြရပေမည်။

### လယ်တီ ဆရာတော်ဘုရားကြီး အဆုံးအဖြတ်

ဤ၌ နတ် ကိုးကွယ် တင်မြှောက်မှုကြောင့် သရဏဂုံ မပျက်ကြောင်းကို ကျေးဇူးတော်ရှင် လယ်တီ ဆရာတော်ဘုရားကြီးက သုတ် မဟာဝါ ပါဠိတော်ကို အကိုးအထောက် ပြုကာ သာသန ဝိသောဓနီကျမ်း၌ အောက်ပါအတိုင်း ဆုံးဖြတ်တော်မူခဲ့သည်။

သုတ် မဟာဝါ ပါဠိတော်ကို ထောက်၍ လူဖြစ်သော သူတို့မှာ ပစ္စုပ္ပန် အကျိုးအတွက် လောကပါလ နတ်များကို ရှိခိုးကောင်း၏။ ပူဇော်ကောင်း၏။ နတ်ကွန်း၊ နတ်ကန္နားများကို ဆောက်လုပ်ကောင်း၏။ စီမံကောင်း၏။ မိမိကိုယ်တိုင် နတ်ရုပ်တုများ ကံကျွေး လက်ခွပေး၍ ထုလုပ်ကောင်း၏။ ပွဲတင်မြှောက် ပူဇော်ခြင်းကို ပြုကောင်း၏။ ရဟန်းဖြစ်သော သူတို့မှာမူကား နတ်များကို ရှိခိုးခြင်းငှာ မအပ်၊ နတ်ကွန်း၊ နတ်ကန္နားများကို ကိုယ်တိုင် မဆောက်ကောင်း၊ လူများကို ဆောက်လုပ်ကြစေရန် စေ့ဆော်ကောင်း၏။ နတ်ရုပ်တုများကို ရဟန်းများ ကိုယ်တိုင် မထုလုပ်

ကောင်း၊ လက္ခ ကံကျေးပေး၍ လူအများကို ထုလုပ်စေအပ်၏။ ၎င်း နတ်ရုပ်ကြီးများအား ပွဲတင်မြှောက် ပူဇော်ခြင်းကို ရဟန်းများ ကိုယ်တိုင် မပြုအပ်၊ လူများကို ပြုလုပ်စေအပ်၏။ ဤ အလုံးစုံကိုလည်း ယခုဘဝ၌ အန္တရာယ်ကင်း၍ ချမ်းသာသုခကို ရခြင်းမှာ ပြုအပ်၏။ ရတနာ သုံးပါးကိုလည်း အမြတ်တနိုး ကိုးကွယ်လျက် ရှိသောကြောင့် နတ်များကို ထိုသို့ ပြုသော်လည်း သရဏဂုံ မပျက်။

## အခြေခံနှင့် ဦးတည်ချက်

လယ်တီ ဆရာတော်ဘုရားကြီး ဆုံးဖြတ်သကဲ့သို့ပင် နတ် ကိုးကွယ် တင်မြှောက်မှု၏ ဦးတည်ချက်မှာ ယခုဘဝ၌ အန္တရာယ်ကင်း၍ ချမ်းသာသုခ ရလိုခြင်း ဟူသော လောကီကျိုးကို လိုလား တောင့်တသောကြောင့် ဖြစ်သည်။ သရဏဂုံကို ကိုးကွယ် ဆည်းကပ်ခြင်း၏ ဦးတည်ချက်မှာကား သံသရာမှ ထွက်မြောက်၍ နိဗ္ဗာန်ကို မျက်မှောက်ပြုလိုခြင်းကြောင့် ဖြစ်သည်။ ဤသို့ ဦးတည်ချက်အားဖြင့် ကွာခြားလှရကား နတ် ကိုးကွယ် တင်မြှောက်မှုကြောင့် သရဏဂုံ မပျက်ပေ။

ယင်းသို့ ဦးတည်ချက်အားဖြင့်သာ ကွာခြားသည် မဟုတ်၊ အခြေခံအားဖြင့်လည်း ကွာခြားသေးသည်။ သရဏဂုံ ကိုးကွယ် ဆည်းကပ်မှုသည် ကံ, ကံ၏ အကျိုးကို ယုံကြည်မှု၌ အခြေခံနေသော်လည်း နတ် ကိုးကွယ် တင်မြှောက်မှုမှာကား မည်သည့် အခြေခံမှ မရှိပေ၊ လောကီ ကောင်းကျိုး လိုလားမှု သက်သက်မျှသာ ဖြစ်သည်။ ယင်းသို့ လောကီကျိုး လိုလား တောင့်တ၍ နတ် ကိုးကွယ် တင်မြှောက်ရုံဖြင့် ကံ, ကံ၏ အကျိုး ယုံကြည်မှုပေါ်၌ ခိုင်မာစွာ တည်ဆောက်သူများ အဘို့ ဘယ်နည်းနှင့်မှ သရဏဂုံ ပျက်စီးမသွားနိုင်ပေ။

ထို့ကြောင့် ကျေးဇူးတော်ရှင် လယ်တီ ဆရာတော်ဘုရားကြီးက လောကီ ကောင်းကျိုး ချမ်းသာအတွက် နတ် ကိုးကွယ် တင်မြှောက်သင့်ကြောင်းကို "လယ်တီ ပုစ္ဆာပေါင်းချုပ် ကျမ်း" ဒုတိယတွဲ၌ အောက်ပါအတိုင်း ဆုံးဖြတ်တော်မူခဲ့သည်။

မဟာဂီရိ အစရှိသော မိရိုးဖလာ ကိုးကွယ်ကြသော နတ်များကို အရိုးအစဉ် မပျက် ကိုးကွယ်ခြင်း အမှုသည် လူတို့၌ ကောင်းကျိုးစီးပွား ဖြစ်ထွန်းရန် အမှုတစ်ခု ဖြစ်ကြောင်းကို မုဏ္ဍာရာဇဝင် ပဉ္စကနိပါတ် အင်္ဂုတ္တိုရ် ပါဠိတော်တွင် ဟောတော်မူသည် တစ်ချက်။

ရွာစောင့်နတ်၊ မြို့စောင့်နတ်၊ တိုင်းစောင့်နတ်၊ ပြည်စောင့်နတ်တို့ကို အစဉ်အလာ မပျက်ရအောင် ကိုးကွယ်ကြသော မြို့၊ ရွာ၊ တိုင်းပြည်များသည် အကျိုးစီးပွား မဆုတ်မယုတ် နိုင်သော အပရိဟာနိယ ဓမ္မတစ်ပါး ဖြစ်ကြောင်းကို သုတ် မဟာဝါ ပါဠိတော် မဟာပရိနိဗ္ဗာန သုတ်၌ ဟောတော်မူသည် တစ်ချက်။

တသ္မာ ဟိ ဘူတာနိ သာမေထ သဗ္ဗေ။

မေတ္တံ ကရောထ မာနုသိယာ ပဇာယ။

ဒိဝါစ ရတ္တော စ ဟရန္တိ ယေ ဗလိံ။

ဟူ၍ "နေ့နေ့ ညည ပူဇော်သက္ကာရများကို ဆောင်ယူ ပူဇော်ကြပေကုန်သော လူတို့အား နတ်အပေါင်းတို့သည် ချစ်ခြင်းမေတ္တာကို ပြုကြပေကုန်လော့" ဟု ရတနသုတ်တွင် ဟောတော်မူသည် တစ်ချက်၊

ယာ တတ္ထ ဒေဝတာ အာသုံ၊

တာသံ ဒက္ခိဏ မာဒိသေ။

တာ ပူဇိတာ ပူဇယန္တိ၊

မာနိတာ မာနယန္တိ နံ။

ဒေဝတာနုကမ္ပိတော ပေါသော၊

သဒါ ဘဒြာနိ ပဿတိ။

ဟူ၍ "လူတို့သည် အိမ်သစ်တက်သောအခါ ရဟန်း သံဃာတော်များကို လှူဒါန်း ကျွေးမွေးရာ မဟာဂီရိ အစရှိသော နတ်များကို အမျှဝေရမည်၊ ငါတို့ကို အမျှဝေသည် ဟူ၍ အိမ်ရှင်တို့ကို အိမ်စောင့်နတ်တို့က ဘေးကင်းအောင် အန္တရာယ်ကင်းအောင် စောင့်ရှောက်ခြင်းဖြင့် ထို အိမ်ရှင်တို့ကို တစ်ဖန် ပူဇော်ကြကုန်သည်။ မြတ်နိုးတနာ ပြုကြကုန်သည်။ ထိုနတ်တို့သည် ချစ်ခင် သနား၍ စောင့်ရှောက်ကုန်သည် ရှိသော် ထို အိမ်ရှင်တို့သည် အခါခပ်သိမ်း ကောင်းမြတ်သော မင်္ဂလာ ကျက်သရေတို့ကိုသာ မြင်ရ တွေ့ရ ကြုံရကုန်သည်" ဟု ဟောတော်မူသည် တစ်ချက်။

ဤသို့လျှင် လူတို့၏ ကောင်းကျိုးစီးပွား များမြတ်ရာ သဘောတရားတို့ကို ဟောတော်မူသော မြတ်စွာဘုရားသည် မဟာဂီရိ စသော မိရိုးဖလာ ကိုးကွယ်ကြသော နတ်များကို အစဉ်အလာ မပျက်ရအောင် ကိုးကွယ် ပူဇော်ကြသော အမှုကို သုတ္တန် အရပ်ရပ်တို့၌ ချီးမွမ်းတော်မူသည်။ အစဉ်အလာ ကိုးကွယ်မြဲတိုင်း မကိုးကွယ်ကြသော လူတို့အား အကျိုးစီးပွား ဆုတ်ယုတ်ရန် အကြောင်းတစ်ခု ဖြစ်ကြောင်းကိုလည်း မဟာပရိနိဗ္ဗာနသုတ်၌ ဟောတော်မူသည်။

မဟာဂီရိ စသော နတ်တို့ကို အစဉ်အလာ မပျက်ရအောင် ကိုးကွယ်မှု ဟူသည်လည်း ထို နတ်တို့ကို သီလဂုဏ်၊ သမာဓိဂုဏ်၊ ပညာဂုဏ်တို့နှင့် ပြည့်စုံကြပေသည် ဟု ဒက္ခိဏေယျ အနေဖြင့် ကိုးကွယ်ရသည်လည်း မဟုတ်၊ ကံကို လုံးလုံး လွှတ်၍ ထို နတ်တို့သည်သာ ကောင်းကျိုး မကောင်းကျိုးကို ပေးနိုင်သည်ဟု ကိုးကွယ်ရသည်လည်း မဟုတ်။

လောက၌ အနာရောဂါ မကပ်ရောက်ပါစေခြင်း အကျိုးငှာ ဆေးသမားကြီးများကို ကိုးကွယ်ကြရ ကုန်သကဲ့သို့ လည်းကောင်း၊ ဥစ္စာပစ္စည်း ပေါများစေခြင်း အကျိုးငှာ သူဌေး၊ သူကြွယ် ကုန်သည်ကြီးများကို ကိုးကွယ် ဆည်းကပ်ကြရသကဲ့သို့ လည်းကောင်း၊ ခပ်သိမ်းသော စည်းစိမ်၊ ကျက်သရေတို့ကို ရပါစေခြင်း အကျိုးငှာ မင်းစိုးရာဇာတို့ကို ကိုးကွယ် ဆည်းကပ်ကြရသကဲ့သို့ လည်းကောင်း ကိုးကွယ်သည်သာ ဖြစ်သည်။

**မဟာဝိသုဒ္ဓါရုံ ဆရာတော်ဘုရားကြီး အဆိုအမိန့်**

ထို့ပြင် ရွှေကျင်ဂိုဏ်းကြီး၏ ဦးစီးဦးကိုင် သာသနာပိုင် ဖြစ်တော်မူသော ကျေးဇူးတော်ရှင် မဟာဝိသုဒ္ဓါရုံ ဆရာတော်ဘုရားကြီးကလည်း ဇွေနီပါတ်ပါဠိတော် အပဏ္ဏကဝဂ် ဒေဝဓမ္မဇာတ်ကို ကိုးကားကာ ဘုရားအလောင်းတော် ကိုယ်တိုင် နတ်ကွန်း၊ နတ်နန်းများ ဆောက်လုပ်၍ ဗလိနတ်စာ ပူဇော်သက္ကာရ ပြုခဲ့ကြောင်းကို "ဆိဒ္ဓပိဓာနနီ ကျမ်း" ၌ ရေးသားတော်မူခဲ့ဘူးသည်။

ယင်းကဲ့သို့ လယ်တီ ဆရာတော်ဘုရားကြီး၊ မဟာဝိသုဒ္ဓါရုံ ဆရာတော်ဘုရားကြီး တို့၏ အဆုံးအဖြတ်၊ အဆိုအမိန့်များ အပြင် ဗုဒ္ဓဘုရားရှင် ကိုယ်တော်တိုင် သုတ် မဟာဝါ ပါဠိတော်၌ အပရိဟာနိယတရား ခုနစ်ပါးတွင် နတ် ကိုးကွယ် တင်မြှောက်မှု (ဗလိနတ်စာ ကျွေးမှု) ကို တစ်ပါး အဖြစ်ဖြင့် ထည့်သွင်း ဟောထားတော်မူခဲ့ခြင်းကိုလည်း ဤ၌ အလေးအနက် ထည့်သွင်းစဉ်းစား ဆုံးဖြတ်ကြရမည့် ခိုင်မာသော အချက်များ ဖြစ်သည်။

## (၁၅)

## နတ်နှင့် လူ ပုံမှန် ဆက်ဆံရေး

### ဤစာအုပ်၏ ပဓာန ဦးတည်ချက်

"နတ် ကိုးကွယ် တင်မြှောက်သင့်ကြောင်း" ကို ဗုဒ္ဓဘုရားရှင်၏ ဟောတော်မူချက်အရ လည်းကောင်း၊ ရှေး ကျမ်းဂန်တတ်အကျော် ဆရာတော်ဘုရားကြီးများ၏ အဆုံးအဖြတ် အဆိုအမိန့်များအရ လည်းကောင်း သိရှိကြရပြီ ဖြစ်သော်လည်း "နတ်ကို ဘယ်လို ကိုးကွယ် တင်မြှောက်ရမည်၊ ဘယ်လို ချဉ်းကပ်ရမည်" ဟူသော ကိုးကွယ်နည်း ကိုးကွယ်ဟန်၊ ချဉ်းကပ်နည်း ချဉ်းကပ်ဟန်များသည် ဤစာအုပ်၌ အရေးလည်း အကြီးဆုံး၊ ပဓာနလည်း အကျဆုံး ဦးတည်ချက် ဖြစ်သည်။

စင်စစ် ယင်း ကိုးကွယ်နည်း ကိုးကွယ်ဟန်၊ ချဉ်းကပ်နည်း ချဉ်းကပ်ဟန်များသည် နတ်နှင့် လူသားတို့၏ ပုံမှန် ဆက်ဆံရေးပေါ်၌ တည်ရှိနေသည်။

နတ်နှင့် လူ ပုံမှန် ဆက်ဆံရေးကို သဘောမပေါက်ကြသောကြောင့်သာ - တစ်နည်းအားဖြင့် ဆိုရလျှင် လူသားတို့သည် နတ်များကို ဆက်ဆံကြရာ၌ ပုံမှန် အနေအထားဖြင့် မဆက်ဆံတတ်သောကြောင့်သာ "နတ် ကိုးကွယ် သင့်- မသင့်" စသော ပြဿနာများ ပေါ်ပေါက်နေရခြင်း ဖြစ်သည်ဟု ဆိုနိုင်သည်။

ထို့ကြောင့် ဤစာအုပ်တွင် နိဂုံးပိုင်း အနေဖြင့် နတ်နှင့် လူ ပုံမှန် ဆက်ဆံရေးကို ကိုင်တွယ် ဖြေရှင်းရတော့မည် ဖြစ်သည်။ ယင်းသို့ ကိုင်တွယ် ဖြေရှင်းရာ၌ သိမ်မွေ့နူးညံ့စွာ ကိုင်တွယ်ဘို့လည်း လိုသည်။ နက်နက်ရှိုင်းရှိုင်း ဗုဒ္ဓဘုရားရှင်၏ အလိုတော်ကျအတိုင်း လက်တစ်ဆုံး နှိုက်ကာ ဒေါင့်တိုင်းစေ့အောင် ကိုင်တွယ် သုံးသပ်ဘို့လည်း လိုသည်။

ယခုကဲ့သို့ ပွင့်လင်းစွာ ရေးသားလိုက်ခြင်းကြောင့် ဤစာအုပ်သည် "နတ် ကိုးကွယ် တင်မြှောက်ကြ" ဟု အတင်း ရိုက်သွင်းကာ တိုက်တွန်းနေသော စာအုပ်မျိုး မဟုတ်ဘဲ ဗုဒ္ဓ၏ အလိုကျအတိုင်း နတ်နှင့် လူတို့ ပုံမှန် ဆက်ဆံတတ်အောင် ခံယူချက် ပြတ်သားစေရန် မှန်ကန်သည့် လမ်းကြောင်းပေါ်သို့ လက်တွဲ ခေါ်ဆောင်နေသော စာအုပ်ဖြစ်ကြောင်း ရိပ်စားမိနိုင်လောက်ပေပြီ။

### နတ် နှစ်မျိုး

နတ် လောက၌ နတ် အများအပြား ရှိသော်လည်း လူနှင့် ဆက်ဆံသော နတ်များ ရှိသကဲ့သို့ လူနှင့် မဆက်ဆံသော နတ်များလည်း ရှိသည်။ ယင်း နှစ်မျိုးအနက် နတ်နှင့် လူ ပုံမှန် ဆက်ဆံရေးမှာ လူနှင့် ဆက်ဆံသော နတ်များ၊ လူနှင့် ဆက်စပ်နေသော နတ်များအတွက် ဖြစ်သည်။

ထို့ပြင် လူ့လောက၌ လူကောင်းနှင့် လူဆိုး ဟူ၍ နှစ်မျိုး ရှိသကဲ့သို့ နတ်လောက၌လည်း နတ်ကောင်းနှင့် နတ်ဆိုးဟူ၍ နှစ်မျိုး နှစ်စား ရှိသည်။ လူကောင်း သူကောင်းသည် အခြားသူများကို အန္တရာယ် မပေးသကဲ့သို့ နတ်ကောင်း၊ နတ်မြတ်များသည်လည်း အခြားသူများကို မ, မစ၊ မကူညီလျှင်သာ ရှိရမည်၊ အန္တရာယ်ကား မပေးပေ။ သို့သော် နတ်ဆိုးများမှာကား လူဆိုး သူဆိုးများ ကဲ့သို့ပင် အခြားသူများကို အန္တရာယ် ပေးတတ်သည်။ ထို့ကြောင့် နတ်ဆိုးများနှင့် ဆက်ဆံရာ၌

သတိနှင့် ဆက်ဆံဘို့ လိုပေသည်။ နတ်နှင့် လူ ပုံမှန် ဆက်ဆံရေးသည် နတ်ဆိုးများနှင့် ဆက်ဆံရာတွင် ပိုမို လိုအပ်လှပေသည်။

**ပုံမှန် ဆက်ဆံရေးအတွက် ဗုဒ္ဓ ဘုရားရှင်၏ သတ်မှတ်ချက်**

ဗုဒ္ဓ ဘုရားရှင်သည် သုတ် မဟာဝါ ပါဠိတော် မဟာပရိနိဗ္ဗာနသုတ်တွင် ဝေသာလီပြည် ဝဇ္ဇီမင်းများကို အကြောင်းပြု၍ အပရိဟာနိယတရား ခုနစ်ပါးကို ဟောထားတော်မူခဲ့သည်။ အပရိဟာနိယတရား ဆိုသည်မှာ မျက်မှောက်ဘဝ လောကီ ကြီးပွားရေး တရား ဖြစ်သည်။ ယင်း အပရိဟာနိယတရား ခုနစ်ပါးအနက် ခြောက်ခုမြောက် တရားဖြင့် နတ်တို့အား ကိုးကွယ် ပူဇော်ခွင့် ပေးခဲ့ရာ ယင်း အမှတ် (၆) ဖြစ်သော ခွင့်ပြုချက် တရားမှာ အောက်ပါအတိုင်း ဖြစ်သည်။

ယာဝ ကိဝဉ္စ အာနန္ဒ ဝဇ္ဇီ ယာနိ တာနိ ဝဇ္ဇီနံ ဝဇ္ဇီ- စေတိယာနိ အဗ□န္တရာနိ စေဝ ဗာဟိရာနိ စ, တာနိ သက္ကရိဿန္တိ ဂရုံ ကရိဿန္တိ မာနေဿန္တိ ပူဇေဿန္တိ၊ တေသဉ္စ ဒိန္နပုဗ္ဗံ ကတပုဗ္ဗံ ဓမ္မိကံ

ဗလိံနော ပရိဟာပေဿန္တိ၊ ဝုဒ္ဓိယေဝ အာနန္ဒ ဝဇ္ဇီနံ ပါဋိကင်္ခါ၊ နော ပရိဟာနိ။

အာနန္ဒာ- ဝေသာလီပြည် ဝဇ္ဇီမင်းတို့သည် မြို့တွင်း မြို့ပြင်ရှိ ဝဇ္ဇီမင်း အဆက်ဆက်တို့၏ ပူဇော်ရာ ဖြစ်သော နတ်စင်၊ နတ်ကွန်း၊ နတ်နန်း၊ နတ်နေရာ သစ်ပင် တည်းဟူသော စေတီတို့ကို အရှိအသေ ပြုမြဲ ပြုကြကုန်လတ္တံ့၊ အမြတ်တနိုး ပြုမြဲ ပြုကြကုန်လတ္တံ့၊ ထို နတ်စေတီတို့အားလည်း ရှေးက တင်မြှောက်မြဲ၊ ပသမြဲ၊ ပြုလုပ်မြဲ ရှိးရာ အစဉ်အလာ ဖြစ်သော သတ်မှု၊ ဖြတ်မှု၊ ဒုစရိုက်မှု လွတ်ကင်း၍ တရားနှင့် လျော်သော ပူဇော်မှု (ဗလိနတ်စာ) ကို ပြုကြကုန် လတ္တံ့၊ (ယင်းသို့ ပြုလုပ်နေသမျှ ကာလပတ်လုံး) ဝဇ္ဇီမင်း အဆက်ဆက်တို့သည် ကြီးပွားရန် ရှိပေကုန်၏။ ဆုတ်ယုတ်ရန် မရှိပေ။

ဤ ဗုဒ္ဓဘုရားရှင်၏ အပရိဟာနိယတရား အတိုင်းပင် လယ်တီ ဆရာတော်ဘုရားကြီးက နတ်ကိုးကွယ် တင်မြှောက်သင့်ကြောင်း ဆုံးဖြတ်တော်မူခဲ့ခြင်း ဖြစ်သည်။ ဤ ပါဠိတော်၌ "ဓမ္မိကံ ဗလိံနော ပရိဟာပေဿန္တိ" ဟူသော ပါဠိဖြင့် နတ်နှင့် လူတို့၏ ပုံမှန် ဆက်ဆံရေးကို ဗုဒ္ဓ ဘုရားရှင်က ညွှန်ပြတော်မူခဲ့သည်။ အဓိပ္ပာယ်မှာ - "သတ်မှု ဖြတ်မှု ဒုစရိုက်မှုမှကင်း၍ တရားနှင့် လျော်စွာ ပူဇော်မှု ဗလိနတ်စာ" သည် ပုံမှန် ဆက်ဆံရေး ဖြစ်သည်ဟု ဆိုလိုသည်။ "တရားနှင့် လျော်စွာ" ဟူသော စကားတွင် ကံ, ကံ၏ အကျိုး ယုံကြည်မှုကို လက်မလွှတ်ရေး၊ သရဏဂုံ သုံးပါးထက် ကျော်၍ နတ်ကိုးကွယ်မှုကို ရှေ့တန်း မပို့ရေးကိုလည်း အကျုံးဝင်နေပေသည်။

ထို့ကြောင့် နတ်နှင့် လူ ပုံမှန် ဆက်ဆံရေး အတွက် -

(၁) ကံ, ကံ၏ အကျိုး ယုံကြည်မှုကို လက်မလွှတ်ရေး။

(၂) သရဏဂုံ သုံးပါးထက် ကျော်၍ နတ်ကိုးကွယ်မှုကို ရှေ့တန်း မပို့ရေး။

(၃) ကြက်၊ ဝက်၊ ဘဲ စသော သက်ရှိ သတ္တဝါတို့ကို သတ်ဖြတ်မှု (ဒုစရိုက်မှု) မပြုဘဲ တရားနှင့် လျော်စွာ တင်မြှောက် ပသရေး။

(၄) မိမိ ပြုလုပ်ပြီး၊ ပြုလုပ်ဆဲ ဖြစ်သော ဒါနမှု၊ သီလမှု၊ ဘာဝနာမှု ကုသိုလ် အစုစု၏ အဘို့ဘာဂကို နတ်တို့အား အမျှပေးဝေရေးနှင့် မေတ္တာပို့သရေး။

(၅) နတ်တို့အား တင်မြှောက် ပသမှု မပြုသည့်တိုင်အောင် နတ်တို့ကို ညှင်းပန်းနှိပ်စက်မှု၊ နတ်တို့၏ နေရာ နတ်ကွန်း၊ နတ်နန်းတို့ကို ဖျက်ဆီးမှု၊ နတ်တို့အား ဆဲဆို ကြိမ်းမောင်းမှု စသည်တို့ကို မပြုလုပ်ရေး။

တို့သည် ဗုဒ္ဓအလိုကျအတိုင်း လိုက်နာ ကျင့်သုံးကြရမည့် စည်းကမ်းချက်များပင် ဖြစ်သည်။ ဗုဒ္ဓကိုယ်တော်တိုင် ခတ်ပေးခဲ့သော "သောင်" ဟုလည်း ဆိုနိုင်သည်။

## တင်မြှောက်နည်း ၂ မျိုး

နတ်တို့အား တင်မြှောက် ပသခြင်းသည် ပါဠိလို ဒါန ဖြစ်၍ မြန်မာလို ပေးကမ်းမှု၊ ပေးလှူမှုပင် ဖြစ်သည်။ ပေးကမ်းမှု၊ ပေးလှူမှု ဒါနသည် အမျိုးအစားအားဖြင့် အများအပြား ရှိသော်လည်း နတ်များနှင့် ပတ်သက်၍ ပေးကမ်း လှူဒါန်းမှု ဒါနသည် -

(၁) ပူဇာဒါန (ပူဇော်သောအားဖြင့် ပေးလှူမှု)

(၂) အနုဂ္ဂဟဒါန (ချီးမြှောက်သောအားဖြင့် ပေးကမ်းမှု)

ဟု နှစ်မျိုး ခွဲခြား နားလည်ထားရပေမည်။ ယင်း နှစ်မျိုးအနက် မိမိထက် အဆင့်အတန်း မြင့်သော နတ်များကို ပူဇာဒါနဖြင့် ပေးလှူ၍ မိမိအောက် အဆင့်အတန်းနိမ့်သော နတ်များကို အနုဂ္ဂဟဒါနဖြင့် ပေးကမ်းရမည်။

အမိဝမ်းတွင်းမှ ကန်းလာသူ၊ ပင်းလာသူ၊ ဆွံ့အသူ စသော ဇစ္စန္ဓ စသည်တို့မှ တစ်ပါး လူမှန်သမျှ သဟိတ်ပဋိသန္ဓေဖြင့် ပဋိသန္ဓေ နေလာသူများ ဖြစ်ကြသည်။





ထို့ကြောင့် လူသားများအနေဖြင့် လူတို့ထက် ပဋိသန္ဓေ အဆင့်အတန်း မြင့်သောသောတာပန် နတ်၊ သကဒါဂါမ် နတ် စသည့် အရိယာ နတ်များ၊ သာသနာတော်စောင့် နတ် များ၊ ဓတရဋ္ဌ၊ ဝိရူဠှက၊ ဝိရူပက္ခ၊ ကုဝေရ၊ ဘုမ္မစိုဝ်း၊ ရုက္ခစိုဝ်း၊ အာကာသစိုဝ်း စသော နတ်များကို ပူဇာဒါန (ပူဇော်သောအားဖြင့် ပေးလှူမှု) ဖြင့် ပေးလှူ တင်မြှောက်ရမည်။ ယင်း နတ်များကို လူများအနေဖြင့် ရှိခိုးကောင်းသည်။ ပူဇော်ကောင်းသည်။

လူတို့အောက် ပဋိသန္ဓေ အဆင့်အတန်း နိမ့်သည့် သုဂတိ အဟိတ် ပဋိသန္ဓေဖြင့် ပဋိသန္ဓေနေသော နတ်များလည်း ရှိသေးသည်။ ယင်း နိမ့်သော နတ်များကိုကား လူများအနေဖြင့် အနုဂ္ဂဟဒါန (ချီးမြှောက်သောအားဖြင့် ပေးကမ်းမှု) ဖြင့် ပေးကမ်း တင်မြှောက်ရမည်။ ယင်းကဲ့သို့ နိမ့်သော နတ်များကို လူများအနေဖြင့် မရှိခိုးကောင်းပေ၊ ရှိခိုး ပူဇော်ကောင်း၍ မတင်မြှောက် မပသကောင်းပေ။

## ဆုပ်ကိုင်ရမည့် ခံယူချက်

ယင်းကဲ့သို့ ခွဲခြား နားလည်ကာ ခံယူချက် ပြတ်သားဘို့ လိုသည်။ သို့မှသာ နတ်နှင့် လူ ဆက်ဆံရာ၌ လူမှန် နေရာမှန်ဖြင့် မိမိ၏ နေရာမှန်မှ ရပ်တည်ကာ တင်မြှောက် ပသတတ်ကြရမည် ဖြစ်သည်။ ဆက်ဆံတတ်ကြရမည် ဖြစ်သည်။ သို့မဟုတ်ပါက လွဲလွဲမှားမှား တင်မြှောက် ပသနေမိကြပေလိမ့်မည်၊ လွဲလွဲမှားမှား ဆက်ဆံနေမိ ကြပေလိမ့်မည်။

ထို့ကြောင့် နတ်နှင့် ဆက်ဆံရာ၌ ပြတ်သားသည့် ခံယူချက် တစ်ရပ်ကို ဆုပ်ကိုင်ထားဘို့ လိုပေသည်။

## အနော်ရထာဘုရင်၏ ဘောင်ခတ်ပေးမှု

မြန်မာနိုင်ငံ သမိုင်းကို ပြန်ကြည့်လျှင် တစ်ခါတရံ လူတို့သည် နတ်ကိုးကွယ်မှုကို ကံ, ကံ၏အကျိုး ယုံကြည်ချက်ကိုပင် စွန့်လွှတ်ကာ အလွန်အကျွံ ပြုလုပ်လာကြသည့် အခါများ ရှိခဲ့ဘူးသည်။ သရဏဂုံ သုံးပါးကိုပင် ကျော်လွန်ကာ နတ် ကိုးကွယ်မှုကို ရှေ့တန်းသို့ ပို့လာသော အခါများလည်း ရှိခဲ့ဘူးသည်။ ထိုအခါ သာသနာပြု မင်းကောင်းမင်းမြတ်များ အနေဖြင့် နတ်နှင့် လူတို့၏ ပုံမှန်ဆက်ဆံရေးကို ဘောင်ခတ်ပေးလေ့ ရှိခဲ့ကြသည်။

ပုဂံခေတ် အနော်ရထာဘုရင်နှင့် အရှင် အရဟံတို့ စင်ကြယ်သော ထေရဝါဒ ဗုဒ္ဓသာသနာကို မတည်ထောင်မီ အချိန်က ပုဂံနေပြည်တော်၏ ကိုးကွယ်မှုသည် အုတ် အရောရော၊ ကျောက် အရောရော ဖြစ်နေသည်။ မင်းမဟာဂီရိ နတ်မောင်နှမများအား ကိုးကွယ်မှု အရှိန်အဟုန်ကလည်း မြင့်မားနေချိန် ဖြစ်သဖြင့် ပုဂံ ပြည်သူပြည်သားတို့သည် မိမိတို့၏ နေအိမ်ရှေ့၌ နတ်ကွန်း၊ နတ်အိမ် ဆောက်လုပ်ကာ နတ်ရုပ်များ သွင်း၍ ပူဇော် ပသခဲ့ကြသည်။ သရဏဂုံ သုံးပါးကိုပင် ကျော်လွန်ကာ နတ် ကိုးကွယ်မှုသည် ရှေ့တန်း ရောက်လာသည်။

ထို့ပြင် အရည်းကြီး ရဟန်းများ၏ တန်ခိုး အရှိန်အဟုန် မြင့်မားခဲ့သော တောင်သူကြီးမင်း (၂၉၃- ၃၂၆) လက်ထက်က စ၍ ထုလုပ် ကိုးကွယ်ခဲ့ကြသော ဘုရားမဟုတ်၊ နဂါးမဟုတ် အရုပ်များလည်း ရှိသေးသည်။

ထို့ကြောင့် အနော်ရထာဘုရင်သည် စင်ကြယ်သော ဗုဒ္ဓဘာသာကို ထူထောင် ပြုစုကာ ယင်း ဘုရားမဟုတ်၊ နဂါးမဟုတ် အရုပ်များနှင့် အချို့ နတ်ရုပ်များကို စုရုံး သိမ်းလှောင် ထားခဲ့ရာ ယင်း လှောင်ထားသော နေရာကို ပုဂံတွင် နတ်လှောင်ကျောင်း အမည်ဖြင့် ယခုတိုင် တွေ့မြင်နေနိုင်ပေသည်။

ထို့ပြင် အနော်ရထာမင်းကြီးသည် ပုဂံ ပြည်သူပြည်သားများ၏ အိမ်ရှေ့၌ ရှိသော နတ်ကွန်း၊ နတ်အိမ်များကို ဖျက်သိမ်းစေ၍ နတ်ရုပ်များကိုလည်း စုရုံး၍ သံကြိုးဖြင့် ချည်ဆွဲကာ ပုဂံ ရွှေစည်းခုံဘုရား၌ စုရုံး ထားရှိခဲ့သည်။ ထိုအချိန်မှ စ၍ အတွင်း ၃၇ မင်း၊ အပြင် ၃၇ မင်း နတ်များ စတင် ပေါ်ပေါက်ခဲ့ကြောင်းကို အထက်က ဖော်ပြခဲ့ပြီး ဖြစ်သည်။

အချို့က ယင်းကဲ့သို့ ပြုလုပ်ခဲ့ခြင်းကို အနော်ရထာမင်းကြီးလည်း မိရိုးဖလာ နတ် ကိုးကွယ်မှုကို အပြတ် နှိမ်နင်းခဲ့သည်ဟု ယူဆကြသည်။ ယူဆသည့် အတိုင်းလည်း ပြောဆို ရေးသားနေကြသည်။ အမှန်မှာ နတ် ကိုးကွယ်မှုကို အပြတ် နှိမ်နင်းခဲ့ခြင်း မဟုတ်ပေ။ ထိုအချိန်က နတ် ကိုးကွယ်မှုသည် သရဏဂုံ သုံးပါးထက် ကျော်လွန်ကာ ရှေ့တန်း ရောက်လွန်းလာသောကြောင့် နတ်နှင့် လူ ပုံမှန် ဆက်ဆံတတ်ရန်အတွက် ဘောင်ခတ်ပေးခဲ့ခြင်းသာ ဖြစ်သည်ဟု ယူဆရပေသည်။

အကယ်၍ အနော်ရထာမင်းကြီးသည် မိရိုးဖလာ နတ်ကိုးကွယ်မှုကို နှိမ်နင်းခဲ့ရိုး မှန်ပါက သူကိုယ်တိုင် ရွှေဖျဉ်းညီနောင်အား တောင်ပြုံးအရပ် ဆုတောင်းပြည့် ဘုရားအနီး၌ နတ်ကွန်းများ၊ နတ်နန်းများ ဆောက်လုပ် မပေးခဲ့တန်ရာ။ (ယင်းအကြောင်းကို ဤစာအုပ် စာမျက်နှာ (၅) ၌ ဖော်ပြခဲ့ပြီး ဖြစ်သည်။)

## ဟံသာဝတီ ဆင်ဖြူရှင်၏ ဘောင်ခတ်ပေးမှု

တောင်ငူခေတ် ဘုရင့်နောင် ခေါ် ဟံသာဝတီ ဆင်ဖြူရှင် မင်းတရားကြီး လက်ထက် လူတို့သည် နတ်နှင့် လူ ပုံမှန် ဆက်ဆံရေးကို ကျော်လွန်ကာ နတ်ကိုးကွယ် တင်မြှောက်မှု၌ ဒုစရိုက်မှုများ ပါလာသည်။ ပုဂံ၊ ရွာသာ၊ စလေ၊ ပုခန်းငယ်၊ သေရောက် စသော အရပ်များတွင် ပုပ္ပားနတ်အား ကျွဲဖြူ၊ နွားဖြူ၊ ဆိတ်ဖြူ၊ ဝက်၊ ကြက် များစွာကို သတ်ဖြတ်ကာ သေအရက်နှင့် တကွ

တင်မြှောက် ပသ ပူဇော်ကြသည်။ နှစ်စဉ် နတ်ပွဲလမ်းများ ကြီးစွာ ပြုလုပ်၍ လူများကလည်း အရက်သေစာ သောက်စား မူးယစ်ကာ အလွန် ကြမ်းတမ်းလာကြသည်။ ယင်းသို့ ဒုစရိုက်များဖြင့် နတ် တင်မြှောက် ပသမှုကို ဟံသာဝတီ ဆင်ဖြူရှင် မင်းတရားကြီးသည် မင်းမိန့်ဖြင့် တားဆီး ပိတ်ပင်ခဲ့သည်။

ဤသို့ တားဆီး ပိတ်ပင်ပစ်ခြင်းကို ဟံသာဝတီ ဆင်ဖြူရှင် မင်းတရားကြီးသည် မိရိုးဖလာ နတ်ကိုးကွယ် တင်မြှောက်မှုကို အပြတ် နှိမ်နင်းခဲ့သည်ဟု အချို့က ယူဆကြသည်။ ပြောဆို ရေးသားလာကြသည်။ အမှန်မှာ အပြတ် နှိမ်နင်းခဲ့သည်ဟု ယူဆခြင်းထက် ဒုစရိုက်မှုများဖြင့် နတ်တင်မြှောက် ပသမှုကိုသာ တားဆီး နှိမ်နင်းခဲ့ခြင်း ဖြစ်သည်ဟု ယူဆမှ ပို၍ မှန်ကန်ပေလိမ့်မည်။ အဘယ့်ကြောင့်ဆိုသော် ဟံသာဝတီ ဆင်ဖြူရှင် မင်းတရားကြီးသည် အပရိဟာနိယ တရားတော်၌ ဗုဒ္ဓ ဘုရားရှင် ခွင့်ပြုတော်မူခဲ့သည့် သတ်မှတ်ချက်အတိုင်း နတ်တို့နှင့် ပုံမှန် ဆက်ဆံတတ်သူလည်း ဖြစ်၍ သူကိုယ်တိုင်လည်း ပုံမှန် ဆက်ဆံခဲ့သူ ဖြစ်သောကြောင့်တည်း။

ဟံသာဝတီ ဆင်ဖြူရှင် မင်းတရားကြီး၏ အမိန့်တော် ပြန်တမ်းများကို ကြည့်လျှင် သူ၏ နန်းတော်အနီး၌ နတ်ကွန်း၊ နတ်အိမ်များ ဆောက်လုပ်ထားကြောင်း တွေ့ရှိရသည့်ပြင် နှစ်စဉ်နှစ်တိုင်း တင်မြှောက် ပသကြောင်းကိုလည်း တွေ့ရှိရပေသည်။

**နတ် အကူအညီ ယူခဲ့သော ဟံသာဝတီ ဆင်ဖြူရှင်**

တစ်ခါက  ဟံသာဝတီ ဆင်ဖြူရှင် မင်းတရားကြီးသည် စစ်ချီတက်ရာ၌ နတ်တို့ကို ကူညီရန် အောက်ပါအတိုင်း  အမိန့်တော် ထုတ်ပြန်ခဲ့ဘူးသည်။

ဘုန်းတော် အလွန်တရာ ကြီးမြတ်တော်မူသော ဆင်ဖြူရှင် လက်နက် စကြာသခင် အသျှင်ဘဝရှင် မင်းတရားကြီးဘုရား အမိန့်တော် ရှိလိုက်သည်- ရွှေပြည်တော်စောင့် နတ်- တောင်သမန် နတ်။

ငါသည် ရှေးဘုရားလောင်း မင်းကောင်း မင်းမြတ်များကဲ့သို့ အပရိဟာနိယ တရား ခုနစ်ပါးနှင့် အညီ စံတော်မူသည်။ ရွှေထီးရွှေနန်း အနီး နေရာ နတ်ကွန်း၊ နတ်အိမ်နှင့် နှစ်စဉ်မပြတ် နတ်ဝတ်နတ်စား၊ အသုံးအဆောင်၊ အထုံ၊ ဆီမီး၊ ပန်းနံ့သာ၊ ရသာ၊ ဘောဇဉ် အစရှိသည်တို့ဖြင့် ချီးမြင့်ပြုစု သတင်းကြားတော်မူသည်။

ရှေးရှေးသော ဧကရာဇ် မင်းမြတ်တို့ဝယ် ပြည်ရေးရွာမှု၊ ရန်စူးရန်ညှော်င့် ရှင်းလင်း သုတ်သင်ရေးမှ စ၍ ပြည်စောင့်နတ်တို့ အစွမ်းအလျောက် ဆောင်ရွက် ကူညီ ထမ်းရွက်ကုန်ကြသည် များကို မမျှော်မထောက်- ငါ့ ကျေးဇူးတော်ကိုသာ ခံစား စံစား၍ အမှုတော်ကို ကုန်စင်အောင် မထမ်းသောကြောင့် သာသနာတော်မြတ်၏ အညစ်အကြေး ယိုးဒယား ဘန်ကောက်စား ကောဝိလ တို့ကို ဗိုလ်ခြေ၊ ဆင် မြင်း အလုံးအရင်းနှင့် ချီတက် သိမ်းယူလေသည်။ အရေးတော် မပြီး၊ ရှည်ကြာရသည်။ တောင်သမန် နတ်က ငါ့ အမှုတော်ကို ကုန်စင်အောင် ထမ်းစေ။

ငါ့ အမိန့်တော်အတိုင်း အမှုတော်ကို ကုန်စင်အောင် မထမ်းလျှင် နတ်ရုပ်၊ နတ်ကွန်းနှင့် တကွ မီးပုံ၍ တိုက်မည်။ တောင်သမန်နတ်၊ တောင်ပြုံးနတ်၊ တောင်မြင့်နတ်၊ ငတောင်ကျဉ်းနတ်၊ မဟာဂီရိနတ်၊ မင်းညီနောင်နတ်။ ငါ့ အမှုတော်ကို ပြီးစီးအောင် ထမ်းရွက်စေ။

ဤအမိန့်တော်ကို ကြည့်လျှင် ဟံသာဝတီ ဆင်ဖြူရှင် မင်းတရားကြီးသည် မိရိုးဖလာ နတ် ကိုးကွယ်မှုကို အပြတ် နှိမ်နင်းခဲ့သူ မဟုတ်ကြောင်း ထင်ရှားသည်။ အပရိဟာနိယ တရားတော်နှင့် အညီ သူ၏ နန်းတော်အနီး၌ ဆောက်လုပ်ပေးထားသော နတ်ကွန်း၊ နတ်အိမ်များ ရှိကြောင်းကို လည်းကောင်း၊ ယင်း နတ်များအား နတ်ဝတ်နတ်စား၊ အသုံးအဆောင်၊ ပန်း၊ ဆီမီး၊ ဘောဇဉ်များဖြင့်

နှစ်စဉ် ချီးမြှင့် တင်မြှောက်လျက် ရှိကြောင်းကို လည်းကောင်း သူ၏ အမိန့်တော် ပြန်တမ်း၌ တွေ့ရှိရပေသည်။

ယင်းသို့ "နတ်များအား တရားနှင့် လျော်စွာ တင်မြှောက် ပသသူများကို နတ်များကလည်း စစ်ဦး၌ အဖော်သဟဲရခြင်း၊ စစ်သည်ဗိုလ်ပါ အင်အားကို တစ်ဆက နှစ်ဆ၊ သုံးဆ ဖြစ်အောင် ပြုလုပ်နိုင်ခြင်းဖြင့် ပြန်လည် ကူညီ မစတတ်ကြောင်း" သုတ် မဟာဝါ အဋ္ဌကထာ မဟာပရိနိဗ္ဗာနသုတ် အဖွင့်၌ အဋ္ဌကထာ ဆရာကြီးက ဖွင့်ဆိုထားသည်။ ထို့ကြောင့်လည်း ဟံသာဝတီ ဆင်ဖြူရှင် မင်းတရားကြီးသည် စစ်ချီရာ၌ အဋ္ဌကထာ ဆရာကြီး၏ ဖွင့်ဆိုချက် အဆိုအမိန့်နှင့် အညီ အထက်ပါအတိုင်း နတ်တို့ကို အကူအညီ တောင်းခဲ့ခြင်း ဖြစ်သည်။

သို့ဖြစ်ရာ ဟံသာဝတီ ဆင်ဖြူရှင် မင်းတရားကြီးအား မိရိုးဖလာ နတ်ကိုးကွယ်မှုကို အပြတ် နှိမ်နင်းခဲ့သူဟု မြင်၍ မဖြစ်ပေ။ သူကိုယ်တိုင် နတ်များနှင့် အပြန်အလှန် နားလည်မှုရှိသူ အဖြစ်ဖြင့် လည်းကောင်း၊ ပြည်သူလူထုကြီးအားလည်း နတ်နှင့် ဆက်ဆံရာ၌ ပုံမှန် အနေအထား ရောက်အောင် ဘောင်ခတ်ပေးခဲ့သူ အဖြစ်ဖြင့် လည်းကောင်း မြင်မှသာလျှင် ယထာဘူတ ကျပေလိမ့်မည်။

**နတ်တို့အား အမျှဝေမှု၊ မေတ္တာပို့မှု**

နတ်နှင့် လူ ပုံမှန် ဆက်ဆံရေး စည်းမျဉ်း သတ်မှတ်ချက်တွင် မိမိ ပြုလုပ်ပြီး၊ ပြုလုပ်ဆဲ၊ ဒါနမှု၊ သီလမှု၊ ဘာဝနာမှု ကုသိုလ် အစုစု၏ အဘို့ဘာဂကို နတ်တို့အား အမျှပေးဝေရေး မေတ္တာပို့သရေးသည်လည်း အထူး အရေးကြီးလှသည်။

ကုသိုလ်ကောင်းမှု ပြုလုပ်သူ တစ်ဦးသည် မိမိ ကုသိုလ်ကောင်းမှု၏ အကျိုး အာနိသင်ကို ဇော ၇ ကြိမ် ရှိသည့်အနက် ပဌမ ဇောနှင့် ပြုလုပ်မှသာလျှင် ယခုဘဝ၌ အကျိုး ခံစားရမည်။ သို့မဟုတ် နိရောဓသမာပတ်မှ ထလာသော ရဟန္တာ ပုဂ္ဂိုလ်အား လှူဒါန်းခွင့် ရမှသာလျှင် ယခုဘဝ၌ ဒိဋ္ဌ ခံစားရမည်၊ ထိုသူများမှတပါး တခြားသူများ အနေဖြင့် ယခုဘဝ၌ ဒိဋ္ဌအကျိုး မရနိုင်ပေ။

သို့သော် ယင်း ကုသိုလ်ကောင်းမှု ပြုလုပ်သူ၏ အမျှပေးဝေမှုကို သာဓုခေါ်ခွင့်ရသော နတ်အနေနှင့်ကား သာဓု ခေါ်ပြီးပြီးချင်း လက်ငင်း အကျိုးအာနိသင်များ ရရှိ ခံစားနိုင်ပေသည်။ နတ်ဝတ်တန်ဆာ၊ နတ်အစားအစာ စသော နတ်စည်းစိမ်များကို ချက်ချင်း ရရှိခံစားရမည်၊ အခြေအနေ ချက်ချင်း ပြောင်းလဲသွားနိုင်သည်။ အကယ်၍ ကျွတ်နိုင် လွတ်နိုင်သူ ဖြစ်ပါကလည်း ထို သာဓုခေါ်စဉ် ခဏမှာပင် ကျွတ်လွတ် သွားနိုင်ပေသည်။ ထို့ကြောင့် သာဓုခေါ်ခွင့် ရခြင်းသည် နတ်တို့အဘို့ ကြီးကျယ် မြင့်မြတ်သော အထူး အခွင့်အရေးကြီး တစ်ရပ် ဖြစ်သည့်အတိုင်း နတ်တို့အား အမျှပေးဝေခြင်းသည် နတ်တို့အတွက် ထိရောက်မှု ရှိလှပေသည်။ တန်ဘိုးလည်း ကြီးလှပေသည်။

လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မင်း မင်းပြုစဉ် ဘုရားလောင်းသည် သူကြွယ်မျိုး၌ ဖြစ်ခဲ့သည်။ ဘုရားလောင်း၌ ညီတစ်ယောက် ရှိသည်။ ၎င်းတို့၏ ဘခင် သေလွန်သောအခါ ညီအကို နှစ်ယောက်တို့သည် ဘခင်ဥစ္စာကို ယူ၍ ကုန်သွယ်ရာ ရွာတစ်ရွာ အရောက်တွင် တစ်ထောင်သော ဥစ္စာကို ရရှိခဲ့ကြသည်။ ထို ဥစ္စာတစ်ထောင်ကို ယူ၍ မြစ်ဆိပ်၌ လှေဆိုက်ပြီး ညီအကိုနှစ်ယောက် ထမင်းစားကြသည်။ ထမင်းစားပြီးသောအခါ အကိုဖြစ်သူ ဘုရားလောင်းသည် စားကြွင်း ထမင်းကို ငါးတို့အား ကျွေးပြီး မြစ်စောင့်နတ်အား ယင်း ဒါန၏ အဘို့ဘာဂကို အမျှပေးဝေသည်။ မြစ်စောင့်နတ်သည် ယင်း ဒါန၏ အဘို့ဘာဂကို ဝမ်းမြောက်စွာ သာဓု အနုမောဒနာ ပြုရခြင်းကြောင့် နတ်စည်းစိမ် အခြံအရံများကို ချက်ချင်း လက်ငင်း ရရှိခဲ့သည်။

ထို့နောက် ဘုရားလောင်းသည် သဲပြင်၌ အပေါ်ရုံ ပုဆိုးကို ခင်း၍ လျောင်းရာမှ အိပ်ပျော်သွားခဲ့သည်။ ဘုရားလောင်း၏ ညီကား ယင်း ဥစ္စာတစ်ထောင်ထုပ်ကို ဘုရားလောင်းအား

မပေးဘဲ သူတစ်ဦးတည်းသာ ရယူလိုသဖြင့် အသပြာ ထောင်ထုပ်နှင့် တူအောင် ကျောက်စရစ်ထုပ် တစ်ခု ထုပ်ကာ အသပြာထုပ်နှင့် အတူ အထုပ် နှစ်ထုပ် ပေါင်းစည်းထားလိုက်သည်။

အိပ်ပျော်ရာမှ ဘုရားလောင်း နိုးလာသောအခါ လှေစီး၍ မြစ်ကို ကူးကြသည်။ မြစ်လယ်သို့ ရောက်သောအခါ ညီသည် လှေကို လှုပ်စေ၍ ကျောက်စရစ်ထုပ်ကို ရေ၌ ချမည်ဟူသော အကြံဖြင့် အထုပ် နှစ်ထုပ် အနက် တစ်ထုပ်ကို ရေ၌ ချလိုက်ရာ မှားယွင်း ချလိုက်မိသဖြင့် ချလိုက်သော အထုပ်မှာ ကျောက်စရစ်ထုပ် မဟုတ်ဘဲ အသပြာ ထောင်ထုပ် ဖြစ်နေသည်။ သို့သော် ညီဖြစ်သူက သူ အကြံပြုထားသည့် အတိုင်း ကျောက်စရစ်ထုပ်ကိုပင် ချလိုက်မိပြီဟုပင် ထင်မှတ်နေသည်။

ထို့ကြောင့် "အကို... အသပြာ ထောင်ထုပ်တော့ ရေ၌ ကျသွားပြီ၊ ဘယ်လို လုပ်ရမည်နည်း" ဟု ညီဖြစ်သူက မေးသော် ရေ၌ ကျသွားပြီဖြစ်ပါက ဘာတတ်နိုင်တော့မည်နည်း၊ မစိုးရိမ်လင့်" ဟု အကိုက ပြန်ဆိုရှာသည်။

ဤတွင် မြစ်စောင့်နတ်သည် "ဤသူ ပေးအပ်သော ဒါန၏ အဘို့ဘာဂကို ဝမ်းမြောက်စွာ သာဓုခေါ်ရသောကြောင့် ငါ့မှာ များစွာသော နတ်စည်းစိမ် အခြံအရံများ ရရှိပေသည်။ ထို့ကြောင့် ထိုသူ၏ အသပြာ တစ်ထောင်ထုပ်ကို ငါစောင့်အံ့" ဟု ကြံပြီးလျှင် ယင်း ဥစ္စာထုပ်ကို ငါးကြီးအား မျိုစေ၍ စောင့်ရှောက်နေသည်။

ညီဖြစ်သူသည် အိမ်ပြန်ရောက်၍ ဥစ္စာထုပ်ကို ဖြေကြည့်သောအခါ အသပြာထုပ် မဟုတ်ဘဲ ကျောက်စရစ်ထုပ် ဖြစ်နေသဖြင့် အကြီးအကျယ် စိတ်ပျက်ကာ ညောင်စောင်းကို ဖက်၍ အိပ်နေမိသည်။

ထို့နောက် တံငါသည်တို့ ငါးဖမ်းသောအခါ မြစ်စောင့်နတ်၏ အာနုဘော်ကြောင့် ငါးကြီးသည် ပိုက်ကွန်တွင်းသို့ ဝင်မိသည်။ ဆိုက်ဆိုက်မြိုက်မြိုက်ပင် ထိုငါးကြီးကို ဘုရားလောင်းထံ သွားရောင်းရာ ဘုရားလောင်းသည် ငါးကို ဝယ်၍ သူ၏ မယားထံ ပို့လိုက်သည်။ ဘုရားလောင်း၏ မယားသည် ငါး၏ ဝမ်းကို ခွဲလိုက်သောအခါ အသပြာ ထောင်ထုပ်ကို တွေ့သဖြင့် ဘုရားလောင်းအား ပြလေလျှင် ဘုရားလောင်းသည် အသပြာ ထောင်ထုပ်၌ သူ၏ တံဆိပ်ကို မြင်၍ "ငါ၏ ဥစ္စာ မှန်ခြင်းကြောင့် ငါ့ထံ ပြန်ရောက်လာခြင်း ဖြစ်ပေသည်"ဟု ဆင်ခြင် စဉ်းစားမိသည်။

ထိုခဏ၌ပင် မြစ်စောင့်နတ်သည် ကောင်းကင်၌ ထင်ရှားစွာ ကိုယ်တိုင်ပြလျက် "ငါကား မြစ်စောင့်နတ်ပေ တည်း၊ သင်သည် ငါးတို့အား အကြွင်းအကျန် ဖြစ်သော ထမင်းတို့ကို ကျွေး၍ ငါ့အား ယင်း ဒါန၏ အဘို့ကို အမျှပေးဝေ၏။ ထို့ကြောင့် ငါသည် သင်၏ အသပြာ ထောင်ထုပ်ကို စောင့်ခဲ့ခြင်း ဖြစ်သည်" ဟု ပြန်လည် ပြောဆိုခဲ့သည်။

ဤ ဝတ္ထုကို တိကနိပါတ် ပါဠိတော် အဗ□န္တရဝဂ် မစ္ဆုဒ္ဒါနဇာတ် အဖြစ် ဗုဒ္ဓဘုရားရှင် ဟောတော်မူခဲ့သည်။

ထို့ကြောင့် ကုသိုလ်ကောင်းမှု ပြုလုပ်တိုင်း ကိုယ်စောင့်နတ်၊ အိမ်စောင့်နတ်မှ စ၍ နတ်များကို အမျှပေးဝေရမည်၊ မေတ္တာပို့ရမည်၊ နံနက် အိပ်ယာထ ည အိပ်ယာဝင် ဘုရားရှိခိုးပြီးတိုင်း အမျှပေးဝေရမည်၊ မေတ္တာ ပို့ရမည်၊ နတ်တို့က ရတနာ သုံးပါးအား တဆင့် လှူဒါန်း ပူဇော်နိုင်စေရန် အုန်း၊ ငှက်ပျော၊ လဘက်၊ ကွမ်းယာ၊ ပန်း၊ ဆီမီး၊ အမွှေးနံ့သာများကို နတ်များအား ရည်စူး၍ ဒါန ပြုရမည်၊ ယင်း လှူဖွယ် ပစ္စည်းများကို နတ်များက ရတနာ သုံးပါးအား တဆင့် လှူဒါန်းခြင်း အားဖြင့် ကျွတ်တမ်း ဝင်နိုင်ပေသည်။

နတ်များကို တင်မြှောက် ပသသော အခါ၌လည်း မိမိ ကုသိုလ်ကောင်းမှု အစုစု၏ အဘို့ဘာဂကို အမျှ ပေးဝေရန် မမေ့သင့်ပေ၊ မေတ္တာပို့ရန်လည်း မမေ့သင့်ပေ။

ယင်းကဲ့သို့ အမျှပေးဝေခြင်း၊ မေတ္တာပို့သခြင်း ပြုပါက နတ်ဆိုး နတ်ဝါး များပင် ဖြစ်စေကာမူ မိမိအား ကောင်းကျိုး မပြုသည့်တိုင်အောင် ဆိုးကျိုးကိုကား ပြုလုပ်မည် မဟုတ်ပေ၊ ဝမ်းမြောက်ဝမ်းသာ ကျေးဇူးတင်နေမည်သာ ဖြစ်သည်။

ဤသို့ အမျှပေးဝေမှု မေတ္တာပို့သမှုများကား နတ်နှင့် လူတို့၏ ဆက်ဆံရေးတွင် တန်ဘိုးကြီးသလောက် ထိရောက်လှသော စည်းမျဉ်း သတ်မှတ်ချက်ပင် ဖြစ်ပေသည်။

## နတ်တို့ကို နှိပ်စက်မှု၊ ဆဲရေးမှု မပြုရေး

အထက်က ဖော်ပြခဲ့သည့်အတိုင်း နတ်တို့အား တင်မြှောက် ပသမှု၊ အမျှပေးဝေမှု၊ မေတ္တာပို့သမှုများ မပြုလုပ်နိုင်သည့် တိုင်အောင် နတ်တို့ကို နှိပ်စက် ညှင်းပန်းမှု၊ ဆဲဆို ကြိမ်းမောင်းမှု၊ ကဲ့ရဲ့ ရှုတ်ချမှုများကိုကား လုံးဝ မပြုရန်မှာ နတ်နှင့် လူ ပုံမှန် ဆက်ဆံရေးတွင် နောက်ဆုံးအဆင့် အနိမ့်ဆုံးအဆင့် အနေဖြင့် လိုက်နာရမည့် စည်းမျဉ်း ဖြစ်သည်။ လူ, လူချင်း ဆက်ဆံရာ၌ပင် ယင်းကဲ့သို့ ပြုလုပ်ခြင်းများသည် အလွန် ရိုင်းပြ ယုတ်ညံ့သည့် အပြုအမူများ ဖြစ်ရာ နတ်တို့နှင့် ဆက်ဆံရာ၌ကား ပြောဘွယ်ရာပင် မရှိတော့ပေ၊ ထို့ကြောင့် ယင်းကဲ့သို့သော အပြုအမူများကို လုံးဝ မပြုလုပ်သင့်ကြပေ။

မြန်မာနိုင်ငံ သမိုင်းကို ကြည့်လျှင် ယင်းကဲ့သို့ နတ်တို့ကို ညှင်းပန်း နှိပ်စက်သူများ၊ ဆဲဆို ကြိမ်းမောင်းသူများ၊ ကဲ့ရဲ့ရှုတ်ချသူများသည် နောက်ဆုံး ဇာတ်သိမ်းမကောင်းကြောင်း တွေ့ရှိရပေသည်။

## အနော်ရထာမင်း၏ ဇာတ်သိမ်း

အနော်ရထာဘုရင်သည် လိမ်ပင်စောင့်နတ်ကို ရိုက်နှက် နှိပ်စက်ခဲ့ဘူးရာ ယင်းရန်ညှိုးကြောင့် မင်းကြီး ကံဇာတာ နိမ့်ကျသောအခါ ယင်း လိမ်ပင်စောင့်နတ်၏ ကျွဲယောင်ဆောင်ခတ်ကာ ပြန်လည် လက်စားချေမှုကို ခံခဲ့ရသည်။ (ယင်း အကြောင်းကို ဤစာအုပ် စာမျက်နှာ (၅) ၌ ဖော်ပြခဲ့ပြီး ဖြစ်သည်။)

## အနောက်ဖက်လွန်မင်း၏ ဇာတ်သိမ်း

ထို့ပြင် ညောင်ရမ်းခေတ် အနောက်ဖက်လွန်မင်းတရား လက်ထက် သက္ကရာဇ် ၉၇၄ ခု ဝါခေါင်လတွင် အင်းဝနေပြည်တော်၌ လွန်လွန်ကဲကဲ ရေကြီး၍ မြို့တွင်းသို့ ရေဝင်လာသောကြောင့် မြို့သူမြို့သားများ များစွာ ထိတ်လန့်ကုန်ကြသည်။ ထိုအခါ အနောက်ဖက်လွန်မင်းတရား ကိုယ်တိုင် ဗေဒင်တတ်သူ၊ နတ်မှန်သူတို့ကို မေးရာ "နက်ဖြန် ရေကျမည်၊ သဘက်ခါ ရေကျမည်" ဟု လျှောက်တင်ကြသည်။ သို့သော် ရေကား မကျ၊ တိုး၍ တိုး၍သာ တက်လာသည်။

ထိုအခါ အနောက်ဖက်လွန်မင်းတရားက သူ၏ အမိန့်တော်နှင့် ရေကို လက်သုံးတော်ဓားပြစေသည်။ ပြသည့် ညဉ့်မှာပင် တက်လာသော ရေများ လျော့သွားခဲ့သည်။

ထိုအခါ အနောက်ဖက်လွန်မင်းတရားက "နတ်မှန်သည် ဆိုသော စကားသည် မဟုတ်၊ လူတို့ လှည့်စားခြင်းသာ ဖြစ်သည်" ဟု မင်းမိန့်ဖြင့် မြို့တွင်း မြို့ပြင်ရှိ နတ်ရုပ်၊ နတ်တကောင်းတို့ကို စုဆောင်း ယူငင်၍ လေးထပ်ကျောင်းကြီး၏ အောက်၌ ထားခဲ့သည်။ သက္ကရာဇ် ၉၉၀ ခုနှစ်တွင် သားတော် မင်းရဲဒိဗ္ဗက လူဆိုးများနှင့် ပူးပေါင်း လုပ်ကြံသောကြောင့် ပဲခူးချောင်း အနောက်ဖက်

ကမ်းတွင် နတ်ရွာစံခဲ့သည်။ (မင်းရဲဒိဗ္ဗ လုပ်ကြံသည့် အကြောင်းကို ဤစာအုပ် စာမျက်နှာ (၃၄) ၌ ဖော်ပြခဲ့ပြီး ဖြစ်သည်။)

**ဟံသာဝတီရောက်မင်း၏ ဇာတ်သိမ်း**

ထို့အတူ ညောင်ရမ်းခေတ် နောက်ဆုံးဘုရင် ဖြစ်သော ဟံသာဝတီရောက်မင်း (၁၀၉၅-၁၁၁၃) သည်လည်း နတ်ကွန်း၊ နတ်အိမ်၊ နတ်ရုပ်တို့ကို နတ်သိမ်း ဖျက်ဆီး နှိပ်ကွပ်ခဲ့ဘူးသည်။ သက္ကရာဇ် ၁၁၁၃ ခုနှစ်တွင် ဟံသာဝတီ မွန်တို့ လာရောက်တိုက်ခိုက်မှုကြောင့် ဟံသာဝတီသို့ ပါတော်မူရုံမက ပါတော်မူပြီး နောက် ၃ နှစ် အကြာ သက္ကရာဇ် ၁၁၁၆ ခုနှစ်တွင် မွန်တို့၏ ရေတွင် ဖျောက်ဖျက် သတ်ဖြတ်မှုကို ခံခဲ့ရသည်။

အနောက်ဖက်လွန်မင်းနှင့် ဟံသာဝတီရောက်မင်းတို့၏ ဇာတ်သိမ်းနှင့် ပတ်သက်၍ ရာဇဝင်ကြီးများက အထူးအထွေ ကောက်ချက်မချခဲ့သော်လည်း နတ်တို့ကို ညှင်းပန်း နှိပ်စက်ခဲ့သော ယင်းတို့၏ လုပ်ဆောင်ချက်နှင့် ယင်းတို့၏ ဇာတ်သိမ်း ဆက်စပ်ကောင်း ဆက်စပ်နေဖွယ်ရာ ရှိသည်ဟု ယူဆမိသောကြောင့် ဤ၌ ဖော်ပြလိုက်ရခြင်း ဖြစ်သည်။

မည်သို့ပင် ဖြစ်စေကာမူ နတ်တို့ကို ညှင်းပန်း နှိပ်စက်မှု၊ ဆဲဆို ကြိမ်းမောင်းမှု၊ ကဲ့ရဲ့ ရှုတ်ချမှုကိုကား လုံးဝ မပြုလုပ်သင့်ကြပေ။

ရပ်ထဲရွာထဲ၌ ရှိသော လူဆိုးလူမိုက် တစ်ယောက်ကို ညှင်းပန်းနှိပ်စက် ဆဲဆို ကြိမ်းမောင်းဘူးပါက အခွင့်သာသော တစ်နေ့တွင် ထို လူဆိုးလူမိုက်၏ ရန်ပြုမှုကို ခံရတတ်ပေသည်။ နတ်မှာ လူဆိုးလူမိုက်ထက် ပို၍ ကမ္မဇိဒ္ဓိ တန်ခိုးဣဒ္ဓိပါဒ် ရှိသူဖြစ်ရာ သူ့အား ညှင်းပန်း နှိပ်စက်၊ ဆဲဆို ကြိမ်းမောင်း၊ ကဲ့ရဲ့ ရှုတ်ချဘူးပါက မိမိ ကံဇာတာ နိမ့်ကျသော နေ့တစ်နေ့တွင် အနော်ရထာဘုရင် ကဲ့သို့ ယင်းနတ်၏ ပြန်လည် လက်စားချေမှု၊ ရန်ပြုမှုကို ခံရတတ်ပေသည်။

ထို့ကြောင့် နတ်နှင့် လူ ပုံမှန် ဆက်ဆံရေးတွင် နောက်ဆုံးအဆင့်၊ အနိမ့်ဆုံး အဆင့်အားဖြင့် နတ်တို့အား မညှင်းပန်း မနှိပ်စက် မိအောင်၊ မဆဲဆို မကြိမ်းမောင်းမိအောင်၊ မကဲ့ရဲ့ မရှုတ်ချ မိအောင် သတိကြီးစွာဖြင့် ရှောင်ကြဉ်ကြကုန်ရာသည်။

ဤသည်ပင် ဗုဒ္ဓဘုရားရှင်၏ အလိုတော်ကျလည်း ဖြစ်ပေသတည်း။

## နိဂုံး

ယနေ့ မျက်မှောက်ခေတ်၌ နတ် ပြဿနာသည် အကိုင်ရအတွယ်ရ မလွယ်သလောက် ဤစာအုပ်မှာလည်း အပျင်းပြေ ဖတ်ရှုရသော စာအုပ်မျိုး မဟုတ်ဘဲ စာမျက်နှာတိုင်း စာမျက်နှာတိုင်း လေ့လာစရာ၊ တွေးခေါ် မြော်မြင်စရာ၊ စဉ်းစားစရာများ ပါဝင်နေကြောင်း ဤစာအုပ်ကို ဖတ်ရှုပြီးသော စာဖတ်သူ ကိုယ်တိုင် သဘောပေါက်ပြီး ဖြစ်ပေမည်။

ယခု ဤနိဂုံးကို ဖတ်ရှုနေချိန်၌ စာဖတ်သူသည် -

- ❖ နတ်တို့၏ အတ္ထုပ္ပတ္တိ သမိုင်းကြောင်းကိုလည်း ကောင်းကောင်း သိရှိခဲ့ရခြင်း ဖြစ်သည်။
- ❖ နတ်တို့ကို တင်မြှောက် ပသရာ၌ ဆုပ်ကိုင် ထားရမည့် ခံယူချက်ကိုလည်း ခိုင်ခိုင်မာမာ ဆုပ်ကိုင်ထားမိလောက်ပေပြီ။

တဆက်တည်းပင် နတ်တို့နှင့် ဆက်ဆံရာ၌ ပုံမှန် အနေအထားဖြင့် ဆက်ဆံနိုင်လောက်ပြီလည်း ဖြစ်သည်။





သို့ဖြစ်လျှင် စာဖတ်သူ အနေဖြင့် နတ်တို့နှင့် ဆက်ဆံရာ၌ ရပ်တည်ချက် မှန်ကန်ပြီဟု ဆိုရပေမည်။

ယင်းသို့ မှန်ကန်စွာ ရပ်တည်နိုင်ပါက စာဖတ်သူအနေဖြင့် ဤစာအုပ်ကို ဖတ်ရှု လေ့လာရကျိုး နပ်သလောက် နိဂုံးသို့ ရောက်ပြီဟုလည်း ယုံကြည်မိပေသတည်း။